သစ္စာအလင်း

ကျေးဇူးတော်ရှင်အဂ္ဂမဟာပဏ္ဍိတ

မိုးကုတ်ဆရာတော်ဘုရားကြီး

ဟောကြားတော်မူခဲ့သော

# ဇော

ချွေးပေါက်ယိုစီး သေခါနီးတွင် နိမိတ်ထင်



အသေမဦးခင် ဦးဝင်းဇင်(မြိတ်)
စုစည်းပူဇော်သည်

# သစ္စာအလင်းရဲ့ သစ္စာစကား

မြတ်ဗုဒ္ဓရဲ့ ဆိုဆုံးမစကား
အနှစ်သာရများကို
ကွက်ကွက် ကွင်းကွင်း
အဓိပ္ပါယ်ပေါ်စေပြီး
တိတိ ကျကျ ရှင်းလင်းမြင်လွယ်အောင်
ဟောဖော်ညွှန်ပြတော်မူခဲ့တဲ့
ကျေးဇူးတော်ရှင်
မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့
ဉာဏ်တော်ကို
ဦးထိပ်ပန်ဆင်ကာ
ဝုဏ်တော်အား
ရည်မှန်းလျှက်
ဤတရားတော်များကို
ယောဂီများအတွက်
စုစည်းပူဇော်ပါတယ်။

အသေမဦးခင် ဦးဝင်းဖေ (မြိတ်)



## ပထမဓော့ရဲ့အကျိုးပေး
(မိလက္ခတိဿရဟန်း)
(၄ - ၇ - ၅၉)

ဈာယထ ဘိက္ခဝေ မာပမာဒတ္ထ မာပစ္ဆာ၊
ဝိပ္ပဋိသာရိနော အဟုဝတ္ထ၊ အယံ ဝေါ အမှာကံ
အနုသာသနီ . . .

လို့ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက (၄၅)ဝါ သီတင်းသုံးသွားတော့ အကြိမ်ပေါင်းများစွာ မှာတော်မူတယ်၊ ခဏခဏ သတိပေးတဲ့သဘောပဲ မှတ်မိကြမှာပါ။

ဘိက္ခဝေ = ရဟန်းတို့၊ ဈာယထ = ဝိပဿနာရှုကြတဲ့၊ မာပမာဒတ္ထ = မေ့လျော့ပေါ့ဆပြီး မနေလိုက်ပါနဲ့၊ ဝိပဿနာရှုကြကွ၊ မေ့လျော့ပေါ့ဆပြီး မနေနဲ့ကွ၊ အရေးကြီးလို့မှာတာပေါ့ဗျာ။ မရှုရင်ဖြင့် ပစ္ဆာ = သေခါနီးအခါ နောက်ကာလမှာ၊ ဝိပ္ပဋိသာရိနော = နိမိတ်ထင်ရှင်ဖြင့်မှားလေပြီဟု နလုံးမသာမယာရှိကြကုန်သည်၊ မာအဟုဝတ္ထ = မဖြစ်ကြကုန်လင့်။

သေကြရဦးမည့် ခန္ဓာကြီး ရ - ထားကြတယ်၊ ရှိုးရှိုးသေမယ်မဟုတ်ဘူး၊ ဝိပဿနာ စသည် လွှတ်ကင်းနေတဲ့ပုဂ္ဂိုလ်

မှာ ငရဲနိမိတ်တွေ၊ ပြိတ္တာနိမိတ်တွေ ၊ နတ်ပြည်နိမိတ်တွေ စသည် မထင်ဘဲနဲ့ သေကိုမသေဘူး၊ စုတိစိတ်ကို မကျနိုင်ဘူးတဲ့၊ ဂတိနိမိတ်မထင်ခဲ့ပါလျှင် သွားရာလမ်းကိုမမြင်ဘဲနဲ့ မသေဘူးတဲ့။

ဘယ်လိုပါလိမ့် သေခါနီးမှာ ဂတိနိမိတ်မထင်ရင် ဂတိနိမိတ်ဆိုရင် သွားရာလမ်းကိုမမြင်ဘဲနဲ့ မသေဘူးဆိုတော့ ဒါဟာ ကျုပ်တို့တွေ့ရမည့်ခရီးဆုံးပဲ၊ အဲဒါတွေ ဘုရားအကြိမ်ကြိမ်မှာတာကို ဘုန်းကြီးက အထပ်ထပ်ဟောပြနေတာ ဩော် - ဝိပဿနာအလုပ်ကို မေ့လျော့ပေါ့ဆနေလို့ မတော်ပါကလား၊ သေခါနီးကျလို့ရှိရင် နလုံးမသာမယာတာလာ တတ်တယ်လို့ အောက်မေ့နေရမယ်။

နလုံးမသာမယာဆိုတော့ စာသံ ပေသံပါနေတယ်တဲ့၊ စိတ်မချမ်းသာတာ လာလိမ့်မယ်၊ အယံ - ဤငါမှာတော်မူတဲ့ စကားသည်၊ ဝေါတုမှာကံ - သင်ချစ်သားတို့အား၊ အနုသာသနီ - အရေးကြီးဆုံးလို့ ဆုံးမတဲ့အချက်အလက်ပေတည်း။ ဒါ အရေးကြီးလို့ ဆုံးမတာ ဘုရားကအရေးကြီးတယ်ဆိုရင် ကျုပ်တို့က ပေါ့ဆလို့မဖြစ်သေးဘူး။

## ငရဲသွားမည့်ပုဂ္ဂိုလ်

ကိုင်း -ဒါဖြင့် လူတစ်ယောက်စုတိစိတ်ကျရတော့မယ်ဆိုတော့ ဩော် -အသေမြန်လိုက်တာလို့အောက်မေ့မနေပါနဲ့၊ မသေခင် ဖျတ်ခနဲ ခေတ္တကလေးမှာပဲ ဂတိနိမိတ်ထင်တဲ့



ပုဂ္ဂိုလ်ဆိုရင် ငရဲသွားမှာဖြင့် ငရဲအိုးတို့ ငရဲထိန်းတို့ ငရဲမီးလျှံတို့ကို မြင်လာတယ်၊ ကြောက်စရာမကောင်းဘူးလား။

## ပြိတ္တာသွားမည့်ပုဂ္ဂိုလ်

ပြိတ္တာဘုံသွားမှာဖြင့် တောတို့၊ တောင်တို့၊ ချောက်တို့၊ ချိုင့်တို့ ဒါတွေမြင်လာတယ်၊ လူ့ပြည်သွားမည့်ပုဂ္ဂိုလ်ဖြစ်ရင် အမိဝမ်းရေတွေ ဘာတွေမြင်လာတယ်။

နတ်ပြည်သွားမည့်ပုဂ္ဂိုလ်ဖြစ်ရင် နတ်သမီး ပဒေသာ ပင်၊ဥယျာဉ်နေစရာ ထိုင်စရာ တိုက်တာ၊ အိမ်ခန်းတွေ ထင်လာတယ်၊ မထင်ဘဲနဲ့တော့ ဒကာ ဒကာမတို့မသေဘူး၊ ဒါဖြင့် ငရဲနိမိတ်တွေထင်လာတယ်၊ ခွေးနက်ကြီးတွေထင်လာတယ်၊ တောင်တွေ၊ ချောက်တွေ ထင်လာတယ်၊ ပင်လယ်ကြီးတွေထင်လာတယ်ဆိုလို့ရှိရင်ဖြင့် ဒါဟာ ငရဲပြိတ္တာအသူရကာယ်သွားရတော့မယ် သားလည်းမတတ်နိုင်ပါဘူး၊ အနားက ဆေးခွက်ကိုင်ပြီးစောင့်ရုံပါပဲ၊ သမီးကလည်း မတတ်နိုင်ဘူး၊ မျက်နှာညှိုးငယ်စွာနဲ့ နေရစ်ရုံပဲ၊ ခင်ပွန်းကလည်း အနားကကြည့်ပြီး ဒီတောင်က တက်မှာမဟုတ်ဘူးဆိုတာ ဒါပဲ သူတွေးလုံးရှိတယ်။

ဘေးကပုဂ္ဂိုလ်တွေ ဘယ်သူမှမသိဘူး၊ သေမည့်ပုဂ္ဂိုလ်ကဖြင့် အင်း - ငါဖြင့် မှားခြင်းကြီး မှားခဲ့ပြီလို့ နလုံးမသာယာခြင်းဟာ လာတယ်ဗျ၊ ဝိပဿနာမလုပ်ရင် လာနိုင်တယ်နော်၊ ဒါဖြင့် ဘုရားအကြိမ်ပေါင်းများစွာ မှာတော်မူတဲ့ဝိပဿနာ

လုပ်ကြ၊ မလုပ်ရင် သေခါနီးမှာ မင်းတို့နလုံးမသာယာတဲ့ စိတ်မချမ်းသာမှုဟာ မုချတွေ့ရလိမ့်မယ်လို့မှာတော်မူတာ အထူးမလုပ်သင့်ဘူးလား၊ မုချတွေ့ရလိမ့်မယ်လို့မှာတော်မူတာပဲ၊ ပုထုဇဉ်အမိုက်တွေသဘောနဲ့ သေတစ်နေ့ မွေးတစ်နေ့ပဲလို့ ဒီအသုံးမျိုးတွေ မသုံးလိုက်ပါနဲ့၊တကယ်မြင်လာတော့ ကိုယ်ပဲ မျက်ရည်ကြီးငယ်ကျတာပဲ။

အားလုံး ဒကာ ဒကာမတွေ မသေခင် ဝိပဿနာရှုကြဖို့ဆိုတာ (၁)နံပါတ်မှတ်နော်၊ကုသိုလ်တရားတွေမှ မရှိခဲ့လို့ရှိရင် အကုသိုလ်တွေများနေတဲ့ပုဂ္ဂိုလ်၊ အကုသိုလ်အကျိုးပေးမယ့်ပုဂ္ဂိုလ်ဆိုရင် ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊အသူရကာယနိမိတ်ဟာ မသေခင်က ကိုယ်သွားရမည့်နေရာမြင်နေရတယ်၊ ဘယ်မှာကောင်းနိုင်စရာ မြင်သေးရဲ့လား။

အဲဒီမှာ ခင်ဗျားတို့ ဗြော် ဆရာသမားကလည်း တိုက်တွန်းရှာတယ်၊ သူတော်ကောင်းတွေဟူသရွေ့ကလည်း လုပ်ကြပါ၊ လုပ်ကြပါလို့ တိုက်တွန်းကြတယ်၊ ကိုယ့်ကိုယ်က ဒါဖြေးဖြေးမှ လုပ်မယ်ဆိုတဲ့ လွဲရှောင်မှုကြောင့်လည်းကောင်း ကိုယ်ကိုယ်တိုင် သားရေး၊ သမီးရေး၊ စီးပွားရေးကိုအရေးမကြီးရမှာ ကြီးပြီးနေချက်ကြောင့်လည်းကောင်း၊ အဲဒီမှာ နလုံးမသာယာဘဲနဲ့ ကိုယ်ကျိုးနည်းပေါ့ဆိုပြီး ဝိညာဏ်ချုပ်ရတယ်၊ ဘယ်လောက်များ နာသတုံး။

ဝိညာဏ်ချုပ် ကိုယ်ကျိုးနည်းပေါ့ဆိုပြီးချုပ်ရမှာပါ၊ ကိုယ်ကျိုးနည်းပေါ့၊ ရှာထားတဲ့ပစ္စည်းကလည်း မကယ်နိုင်ဘူး၊



သား၊ လင်၊ ခင်ပွန်း၊ သားသမီးတွေက အနားမှာရှိပြီး နေပြောသော်လည်း ဘယ်သူမှမပြောနိုင် မဆိုနိုင်ဘဲနဲ့ တစ်ခါတည်းဖျတ်ဆို ဒီကစုတိ၊ ဒီကစုတိစိတ်ကလေး ဖြစ်တယ်နော်။

လူ့ပြည်မှာ တစ်ဘဝရဲ့နောက်ဆုံးပိတ်စိတ်ကလေးဟာ စုတိစိတ်ပါ၊ စုတိပြီးတော့ဖျတ်ဆို ငရဲသွားမည့်ပုဂ္ဂိုလ်ဖြင့် ငရဲမှာ အကောင်အထည်သွားဖြစ်တယ်၊ သူမြင်ထားတဲ့ အတိုင်းရောက်တယ်။ မကြာပါဘူး၊ (၁)မှာသေတယ်၊ (၂)မှာ ဒယ်အိုးရောက်တယ်။ (၁)မှာသေတယ်၊ (၂)မှာ ခွေးဝမ်းထဲ ဝက်ဝမ်းထဲရောက်တယ်၊ ဘယ်လောက်များဆိုးသတုံး မြန်ပါတယ်နော်၊ ဒါခြောက်လှန့်ပြောတဲ့တရား မဟုတ်ပါဘူးတဲ့၊ ဖြစ်စဉ်ကိုက်တရားမှတ်ပါ၊ သတိပေးနေတာပါ။

ဒကာ ဒကာမတို့ ဝိပဿနာစတဲ့ကုသိုလ်တွေ မရှိလို့ရှိရင် မဂ်ဖိုလ်မရသေးလို့ရှိရင် ဤစခန်းနဲ့ ဤလမ်းဟာ မလွဲတမ်းသွားရမယ်ဆိုတာ သတိပေးတာပါ၊ ဘုရားကလည်း အကြိမ်ပေါင်းများစွာ သတိပေးတယ်။ ဒါဖြင့် ကျုပ်တို့မှာ ဗြော် (၁)ဆိုရင် စုတိစိတ်ချုပ်သွားရင် (၂)ဆို ငရဲသွားမည့်ပုဂ္ဂိုလ်ဖြင့် ငရဲရောက်တယ်၊ ပြိတ္တာဘုံသွားမည့်ပုဂ္ဂိုလ်ဖြစ်ရင် ပြိတ္တာအထည်ကြီးဖြစ်သွားတယ်၊ ပြိတ္တာ ခန္ဓာကိုယ်ကြီးချက်ချင်း သွားဖြစ်တယ်၊ ဝမ်းထဲ ပဋိသန္ဓေနေသလို(ဂဗ္ဘသေယျက) မဟုတ်ဘူး၊ အဲဒါတွေ ဘွားခနဲသွားဖြစ်တယ်။

ကိုယ်သွားရမည့် လမ်းကလည်းမြင်ပြန်၊ ဖြစ်တာကလည်း ချက်ချင်းဖြစ်ရမှာဆိုတော့ ဒီပုဂ္ဂိုလ်မသေခင်ကလေး

ဝမ်းနည်းပါတယ်၊ ဩော် ဘုရားစကား နားမထောင်ခဲ့တာ၊ ဆရာသမားစကား နားမထောင်ခဲ့တာ ကိုယ်ကျိုးနည်းပြီဆိုပြီး မျက်ရည်ဟာ မျက်လုံးနှစ်ဖက်ကနေပြီး သူအိပ်နေတဲ့၊ မမာနေတဲ့ခေါင်းအုံးပေါ်မှာ စီးကျတယ်။

ဒီသွားရမည့်လမ်းကိုမြင်နေလို့ ဘယ်သူကကယ်နိုင်သေးသတုံး၊ စိန်တွေ၊ ရွှေတွေ၊ မြတွေ၊ တိုက်တွေ ၊ ကားတွေက ဘာများအကူအညီပေးသေးသတုံး၊ ဒါဖြင့် ဒီက စုတိပြီးတော့ ဒီက ပဋိသန္ဓေလာမယ်၊ ပဋိသန္ဓေလာတယ်ဆိုတော့ ပေါ့လို့မတော်တော့ဘူး။ ဒီနေ့ လေးလေးနက်နက်နဲ့ ဩော် ဖြစ်စဉ်ကိုက် သတိပေးဖနဆိုတဲ့ဥစ္စာ မှတ်ကြစမ်းပါ၊ အခုနေကြတိုင်ကြတာ ပေါ့ သလောက် သေခါနီးမှာ ဒုက္ခရောက် မယ်။ ဘယ်သူပြောတာမှ နားမထောင်နဲ့ ဘုရား ဟောတာကိုသာ နားထောင်ပေါ့၊ ဘုရားဟောကို ယူပြီးပြောတဲ့ ဆရာသမားတွေစကားကိုသာ နားထောင်ကြပါ၊ ဒါနှစ်ခုသာ ခင်ဗျားတို့ အဓိကထားကြပါ၊ အရပ်ပြောစကားတွေကို နားထဲမှာ မသွင်းပါနဲ့။

မင်းတို့ ဒီအလုပ်လုပ်တာကို တို့ကမလုပ်နဲ့မဆိုဘူး၊ ကောင်းတော့ ကောင်းတာပဲ၊ ကောင်းပြားသော်လည်း ကိုယ့်မှာသားနဲ့၊ သမီးနဲ့၊ ဆွေနဲ့၊ မျိုးနဲ့ဆိုပြီး လှည့် လှည့်သွားတယ်၊ အဲဒီလှည့်တာကို မလှည့်ပါနဲ့။ လှည့်တဲ့ပုဂ္ဂိုလ်ဟာလည်း ဒီတရားမျိုးမနာဘူးလို့ သူ့စိတ်သည် အမျိုးမျိုးဖောက်ပြန်တာလို့ မှတ်ကြရမယ်၊ ဘာမှ ကိုးစားရာ အားထားရာမရှိဘူး၊



သူပြောတာတွေဟာ ကိုယ့်နောက်ပါလို့သိရဲ့လား၊ မသေခင်က ကိုယ့်အမြင်ကကော ဒကာ ဒကာမတို့ အင်မတန်မှဆိုးဝါးတဲ့အမြင်ကြီး မြင်ပါတယ်။

အဲဒီမှာ တစ်ခါတည်း ခန္ဓာကိုယ်ကလည်း အကြောတွေဘာတွေဆွဲ တွန့်လိမ်ပြီးမျက်ရည်တွေကလည်းကျ၊ မျက်နာတွေကလည်း ညှိုးလာပါတယ်နော်၊ အဲဒါညှိုးချင်လို့ ညှိုးရတယ်ထင်သလား၊ ဘေးကလူကိုလည်းမပြောနိုင်၊ သူ့အမြင်ကလည်း အဲဒီသွားရမှာမြင်နေလို့ ကိုယ်ကျိုးတော့ လှလှကြီးနည်းပေါ့ဆိုပြီး မှိုင်တွေ ချပစ်လိုက်တာပဲ၊ ဘယ်လောက်များကြောက်စရာကောင်းသတုံး။

## မလုပ်ရင်မဖြစ်တဲ့အလုပ်ဟာ ဝိပဿနာ

ဒါဖြင့် ဘယ်လိုစဉ်းစားကြမလဲ၊ ဝိပဿနာအလုပ်ကိုတော့ လုပ်မှပဲ၊ ဝိပဿနာအလုပ်ကို တော့ လုပ်မှပဲလို့ သေသေချာချာမှတ်ရမယ်။ မလုပ်ရင်မဖြစ်တဲ့အလုပ်ဟာ ဝိပဿနာပါပဲ၊ ပျော့လို့ မတော်ပါဘူး၊ ပျော့လို့ လျှော့လို့ဖြင့် လုံးဝမတော်ဘူးဆိုတာ သေသေချာချာမှတ်ပါ၊ သေစမ်းလိုက်ချင်သေးတယ်တော့ မလုပ်နဲ့နော်၊ မကယ်နိုင်တဲ့နေရာရောက်သွားမယ်။ သေစမ်းလိုက်ချင်သေးတယ်ဆိုတာဖြင့် ကိုယ်ကိုယ်တိုင် ကယ်မည့်သူ၊ ယူမည့်သူ မရောက်ခင် သွားလိုက်ဦးမယ်ဆိုတဲ့စကားနဲ့လည်း အတူတူဖြစ်ပါလိမ့်မယ်၊ ဒါလူပိုင်းအလုပ်နဲ့နော်၊ ဒါဖြင့် သေခါနီးမှာ သွားရာမမြင်ဘဲနဲ့မှတ်မရ

သေးတဲ့ ပုဂ္ဂိုလ်မှာဘယ်တော့မှ မသေဘူးလို့မှတ်ပါ။

အမေကတော့ အားကိုးရမလား၊ အဖေကကော အားကိုး မရပါ။ ရှာထားတဲ့ပစ္စည်းတွေ အားကိုးမရပါ။ အဲဒါတွေ အားကိုး မရဘူးဆိုတော့ ဝိပဿနာပဲ အားကိုးစရာရှိပါတယ်လို့မှတ်ပါ။

အဲ ဝိပဿနာရှုလိုက်တော့ ကိုယ့်သန္တာန်မှာ မဂ္ဂင် ကလေးက ရောက်လာတယ်၊ အဲဒီ မဂ္ဂင်ဟာ ကိုယ့်အားကိုးရာ အစစ်ပဲ၊ ကြွားခဲ့သရွေ့ မော်ခဲ့သရွေ့ အဲဒီမှာ ပိုင်းပိုင်းလဲတာပဲ၊ အင်မတန်မှ ကြောက်စရာကောင်းလွန်းလို့ ဘုရားသခင် ကိုယ်တော်မြတ်ကြီးသည် အကြိမ်ပေါင်းများစွာ မှာတဲ့ စကားတော်သည် အလွန်အရေးကြီးလို့မှာတယ်ဆိုတာ ဒကာ ဒကာမတွေက အောက်မေ့ရမယ်။

ဘုရားမှာတော်မူတာ မသေခင်က ဝိပဿနာရှုကြရပ့်ါ မယ်၊ မလုပ်ခဲ့သော် သေခါနီးမှာ စိတ်ပျက်ရလိမ့်မယ်၊ ကိုယ် ကျိုးနည်းပြီဆိုတဲ့စိတ် ပေါ်ရလိမ့်မယ်၊ အဲဒီအချိန်ကျတော့ တကယ်လို့ ယူလို့ရသေးရဲ့လား၊ အဲဒါကြောင့် ဒကာ ဒကာမတွေကတော့ ပြောကြမှာပဲတဲ့၊ အမြင်ကလေးကြည့်ပြီး အနုမှတွေ့တဲ့ဩဇာသည်တွေကို အရေးတကြီးထားပြီး ပြောနေ ကြမှာပဲ။

အနုမှတွေ့တဲ့ဩဇာသည်ဆိုတာ ဆွေမျိုး ဉာတကာတွေ ဟာ အနုမှတွေ့တဲ့ဩဇာသည်တွေပဲ သားတွေ သမီးတွေက ကော အနုမှတွေ့တဲ့ဩဇာသည်တွေပါ။

အဲဒီဩဇာသည်တွေ အရေးတကြီးထားပြီး ဩဇာသည်



တွေတွေ့နေတာပဲ ဝိပဿနာအလုပ် မလုပ်ဖြစ်ဘူး၊ အဲဒီလို ဖြစ်ပြီးနေတော့ အရေးမကြီးရမှာကို အရေးကြီးပြီး အမိုက်ခံ ပြီး အရှုံးခံပြီးနေတဲ့ အနေမျိုးတွေဟာ နာရီနဲ့တွက်ကြည့်ရင် သိပ်များနေတယ်၊ အစုပြုံးသလောက် မဲ့ရမယ်ဆိုတာလည်း သေချာတယ်။ အခုလည်း ပြုံးတယ်သာဆိုရတာပါ၊ စားဖို့ရှာ၊ ဝတ်ဖို့ရှာ၊ နေဖို့ရှာ၊ သားပူ၊ သမီးပူ၊ ဆွေပူ၊ မျိုးပူနဲ့ဆိုရင် ပြုံး ချိန်ဆိုလည်း နည်းပါလိမ့်မယ်၊ နည်းပြီး မေ့လုံးများနေတယ်၊ ဝိပဿနာကို မေ့လုံးများနေပါတယ်နော်။

ဝိပဿနာအလုပ်ကို မေ့နေတယ်ဆိုတာ ခန္ဓာကိုစိုက်ရှု ရမည့်ဥစ္စာ ခန္ဓာရှိလျက်နဲ့ ခန္ဓာမေ့နေတာလို့မှတ်ပါ၊ ဩော် - ဖြစ်မှဖြစ်ရလေဗျာ၊ ခန္ဓာရှိလျက်နဲ့ ခန္ဓာမေ့နေတယ်၊ဒါဖြင့် ခန္ဓာမရှိလို့ ရှိရင်လည်းတော်သေးရဲ့ ခန္ဓာကြီးက အမျိုးမျိုး အဖုံဖုံ ဖောက်ပြန်ပျက်စီးပြီး ပြနေပါလျက်သားနဲ့ ဒီဟာ အမေ့ ကြီးမေ့နေတယ်ဆိုတဲ့ဥစ္စာ တခြားအာရုံတွေပေါ်မှာ ဆွေပေါ် မျိုးပေါ် စီးပွားရေးပေါ်မှာ အရေးကြီးနေလို့ ကိုယ့်ခန္ဓာကြီး သွား ရာလမ်းခရီးအဖြောင့်ကို မလုပ်ဖြစ်တာပေ့ါ၊ ဒါဟာ အမိုက်ပို နေတာသေချာတယ်။

အမိုက်ပိုပြီးနေတာ သေချာတယ်ဆိုတော့ အခု နေကြ ထိုင်ကြတာ ကြည့်လိုက်လို့ရှိရင်ဖြင့် တစ်နေ့သော်လည်း မအားဘူး၊ နောက်တစ်နေ့သော်လည်း မအားဘူးတဲ့၊ အိပ်ပြန် တော့လည်း နက်ဖြန် လုပ်စရာကြံစည်ပြီးအိပ်ကြရတယ်၊ နောက်ပြန်လုပ်စရာပြီးလို့ အိပ်ကြတာဟုတ်ကြရဲ့လား။

ဪ ဒါဖြင့် ဒကာ ဒကာမတွေသည် မဟုတ်ဘူးတဲ့၊ အနေကောင်းတဲ့အလုပ်လားဆိုတော့လည်း မအားဘူးတဲ့၊ အသေကောင်းတဲ့အလုပ်လားဆိုတော့ ဝိပဿနာမဟုတ်တဲ့အတွက် အသေကောင်းတဲ့အလုပ်လည်း မဟုတ်ဘူး၊ အနေကောင်းတဲ့အလုပ်လားလို့ မေးပြန်တော့လည်း မအားမလပ်နေရတယ်။

အသေကောင်းတဲ့အလုပ်၊ အနေကောင်းတဲ့အလုပ်ကို မဟုတ်ဘူး၊ အခုနေတာဟာ အသေကောင်းတဲ့အလုပ်လား ဆိုတော့ မဟုတ်ပြန်ဘူး၊ အနေကောင်းတဲ့အလုပ်လားလို့ မေးပြန်တော့လည်း ဟိုအလုပ်လည်းပြီးတတ်တယ်မဟုတ်ဘူး၊ ဒီအလုပ်လည်း လုပ်ဆဲ သားရေး၊ သမီးရေး၊ စီးပွားရေးတွေက မရှုပ်ကြဘူးလား၊ အသေကောင်းတဲ့အလုပ်လည်း တပည့်တော်တို့ လုပ်မနေမိပါဘုရား၊ အနေကောင်းတဲ့အလုပ်လဲ တပည့်တော်တို့ လုပ်မနေမိပါဘူး၊ ဘယ်မှာတုံး၊ ဝတ်ရေး၊ စားရေးနဲ့ ရှုပ်နေတာပဲ။

တစ်နေ့သော်လည်း လက်ဖက်ခြောက်ကုန်သည်က လက်ဖက်ခြောက်ရောင်းမှာပဲ၊ လက်ဖက်စိုကုန်သည်ကကော လက်ဖက်စိုရောင်းမှာပါ၊ ရွှေဆိုင် ငွေဆိုင်ကလည်း ရွှေ၊ ငွေရောင်းမှာပါ၊ မအားတာသည် ဒကာ ဒကာမတို့ အနေကောင်းတဲ့အလုပ်ကလည်း အနေကောင်းဆိုတာ အားပါရဲ့လား၊ အသေကောင်းအလုပ်ကော လုပ်ဖြစ်ပါရဲ့လား။

လူ့ပြည်လာတာသည် အနေကောင်းနေမလို့ လာတာ



လည်း မဟုတ်ဘူး၊ အသေကောင်းသေမလို့လာတာကော မဟုတ်ပါဘူးနော်၊ ရှုံးလိုက်တဲ့ဖြစ်တွေ သေသေချာချာ စာရင်းကိုက်ကြည့်တော့မှ ကိုယ့်အရှုံး ပေါ်ကြပြီ၊ အသေကောင်းအလုပ်လည်း မလုပ်ဖြစ်ဘူးတဲ့၊ အနေကောင်းတော့လည်း နေရပါရဲ့လား၊ နံနက်မိုးလင်းလာလို့ရှိရင် ဖြင့် ဆိုင်ရာ ဆိုင်ရာ ပြောရ ဆိုရ သွားရ လာရ စိတ်မော ကိုယ်မော ရှိပါတယ်၊ ဟိုကြည့်ရ ဒီကြည့်ရ၊ ဟိုဟာ စီမံရ၊ ဒီဟာ စီမံရ၊ ဒါတွေကလည်း အားလပ်ခွင့်များရသေးရဲ့လား၊ မတော် လက်ဖက်ရည်လေး တစ်ခွက် ဖြောင့်ဖြောင့်သောက်ဖို့ မရပါဘူး၊ ထမင်းကလေး တောင်မှနှစ်ထပ်ကိုတစ်ထပ်ပေါင်းစားရတဲ့အခါပါသေးတယ်။

အဲဒီတော့ အနေကော ကောင်းပါရဲ့လား၊ အသေကောင်းတဲ့အလုပ်ကော မလုပ်ဖြစ်ဘူး၊ လူ့ပြည်တက်လာတာ အရှုံးခံမလို့ တက်လာတဲ့အခြေအနေကို ကိုယ့်ရည်ရွယ်ချက်ကဖြင့် ဒီအတိုင်း ဆိုက်နေတာပဲဆိုရင်ဖြင့် ငြင်းဖို့ မလိုပါဘူး။ ဒါဖြင့် ဒီက ရှေ့ပြောင်းကြပါဦး ပြင်ကြပါဦးဆိုတာ အနေကောင်းကလေးနေပြီး အသေကောင်းကလေး သေတဲ့ အလုပ်ကို လုပ်စမ်းပါဦး အနေကောင်းနေစရာအလုပ်၊ အသေကောင်းတဲ့အလုပ်ဆိုတာကို လုပ်စမ်းပါဦး၊ အနေကောင်းနေစရာ အလုပ်ကလေးတွေ အားလပ်ခွင့်ယူပါဦး။

အသေကောင်းတဲ့အလုပ်ဆိုတာ အလုပ်အားလပ်ခွင့်ရှိမှ အသေကောင်းတဲ့အဖြစ်တဲ့၊ ဝိပဿနာအလုပ်ကိုလုပ်ဖြစ်မှာ၊ အနေကောင်းမှ မနေရတဲ့ပုဂ္ဂိုလ်က အသေကောင်းကို

ဖြင့် ဘယ်နှယ်လုပ်ပြီးလုပ်ဖြစ်ပါ့မတုံး။ အနေကောင်းကလေး နေရအောင်လည်း လုပ်ကြစမ်းပါဦး၊ သွားလာပြီးပြောဆိုနေရတဲ့အလုပ်ကလည်း ပတ်ဝန်းကျင်အခြေအနေနဲ့ကြည့်လိုက်တဲ့အခါကျတော့ ရှုပ်ပွနေကြတာပဲ၊ အဲဒီတော့ အနေကောင်းကော ဟုတ်ပါရဲ့လား၊ အနေကောင်းမှုမနေရတဲ့ ပုဂ္ဂိုလ်ဟာ အသေကောင်းအလုပ် လုပ်ဖြစ်ဖို့ရာ အတော်ခဲယဉ်းတယ်၊ ရှိတဲ့ပုဂ္ဂိုလ်လည်း ရှိလို့ မအားဘူး၊ မရှိတဲ့ပုဂ္ဂိုလ်လည်း မရှိလို့ မအားဘူး။

လူ့ပြည်လာတာသည် အနေကောင်းမနေရဘဲနဲ့ အသေကောင်း မသေရအောင် တပည့်တော်တို့ဘုရား၊ မိဘရပ်ထံနဲ့ တူတဲ့ အပါယ်လေးပါး ပြန်ရအောင် ရိက္ခာစုလာတာပဲ၊ ဒါ နှစ်နာအောင်ပြောတယ်လို့ အောက်မေ့မနေပါနဲ့၊ ခင်ဗျားတို့ ဖြစ်တဲ့စိတ်ကိုပြောရလို့ရှိရင် တစ်နေ့တည်း မြင်တဲ့စိတ်ပဲ မရေတွက်နိုင်ဘူး၊ အပါယ်သွားမည့်စိတ်တွေ မရေတွက်နိုင်ပါဘူး။ မျက်စိတစ်မှိတ်မှာ ကုဋေတစ်သိန်းတောင် ဖြစ်တာပဲ၊ ကုဋေတစ်သိန်းထဲက အကုသိုလ်ဇောကတော့ ကုဋေငါးထောင်လောက်တော့ ပါပါတယ်၊ အဲ ကုဋေငါးထောင် လောက်ဖြစ်တဲ့ အကုသိုလ်စိတ်တွေဟာ တစ်ခါတစ်ခါ အပါယ်ငရဲမှာခံရမယ်ဆိုရင် ဒီစိတ်ပေါင်း ငါးထောင်လျော့ လျော့လောက်ကျန်နေတယ်။

နှစ်စိတ်လောက် အကုသိုလ်ဖြစ်လိုက်မယ်ဆိုတော့ ခုနင်က ကုဋေငါးထောင် ထပ်လာဦးမယ်၊ ဒါကြောင့် လွတ်ရက် မရှိပါဘူး၊ လွတ်ရက်မရှိတဲ့ နေရာဌာနရောက်ဖို့ တပည့်



တော်တို့ ရိက္ခာလာစုတယ်ဆိုတာ နာအောင်ပြောတာ မဟုတ်ပါဘူး၊ ဖြစ်စဉ်ကိုက် ပြောတာပါနော်။ အခုပြုံးသလောက် ဟိုမှာမဲ့ရည်တဲ့၊ ပြီးတော့ ကံကလည်း ပြုလိုက်တဲ့ကံကြောင့် ဒီကစုတိပြီး ဟိုမှာ ပဋိသန္ဓေဆိုတော့ ဟိုမှာအရှင်သွားဖြစ်တယ်၊ ဓားတွေ လှံတွေနဲ့ ငရဲထိန်းတွေက ခုတ်လိုက်ထစ်လိုက်ပေမယ့် သေသွားသလားဆိုတော့လည်း အပြီးသေသွားတာမဟုတ်ဘူး၊ သေသွားလို့ ငါးကြော်တဲ့အခါ အသေကောင်ကြီး ကြော်နေတာ သူ့မှာ နာတော့တာမှမဟုတ်ဘဲ ကိစ္စမရှိဘူး၊ သူက ဒီလိုမသေဘူး အရှင်ခံနေရတာပဲ။

ဒါဖြင့် အရှင်ခံရမည့်အလုပ်က နှစ်အရေအတွက်တော့ ဘုရားမဟောဘူး၊ မိမိလုပ်ထားတဲ့ ကံပေါ်မှာ တည်တယ်၊ ဒီကံကုန်ရင် ကုန်မယ်၊ ဒီကံမကုန်ရင် ကံကလည်း ကုန်စရာများရှိသေးရဲ့လား၊ မျက်စိတစ်မှိတ် ငါးထောင်လောက်၊ မျက်စိနှစ်မှိတ် သုံးမှိတ်လောက်ဆိုတော့ မျက်စိမှိတ်ပေါင်းက မရေမတွက်နိုင်ပါဘူး။

အဲ မျက်စိက တစ်မှိတ်တောင် အကုသိုလ်စိတ်တွေက ဒါလောက်တောင်များများဖြစ်တယ်ဆိုတော့ ဒကာ ဒကာမတွေမှာ ကြွေးလည်ပင်းမကပါဘူး၊ လူကိုမြှုပ်နေပြီ၊ လူကိုမြှုပ်နေတော့ ဒကာ ဒကာမတို့ ဒီအတိုင်းသာဆိုလို့ရှိရင် ဒီပုဂ္ဂိုလ်သေခါနီးမှာ ကိုယ်ကျိုးနည်းပြီဆိုတဲ့ ဟိုဘက် ဒီဘက်ခေါင်းအုံးပေါ် မျက်ရည်စီးကျလာတဲ့အလုပ်သာဖြစ်ရမယ်၊ မိန့်မိတ်က ဒီသွားရာလမ်းခရီးကို မြင်ရမယ်၊ အမေလည်းမပြောနိုင်

ဘူး၊ အဖေလည်း မပြောနိုင်ဘူး၊ သူ့ဟာသူ မြင်ပြီး "ဖျတ်" ဆို ဒီစုတိစိတ်ဖြစ်တယ်၊ "ဖျတ်" ဆို ဟိုမှာသွားရောက်တယ်၊ မကြာပါဘူးနော်။

ကိုင်း ဘုရားမှာတော်မူတာ မလုပ်သင့်ဘူးလား၊ သေခါနီးမှ စိတ်နလုံးမသာယာတဲ့ဖြစ်တွေကြီးနဲ့ ညှိုးငယ်တဲ့မျက်နှာတွေနဲ့ မသေလိုက်ပါနဲ့ ဒီအချိန်မှာ ကိုယ်တိုင်တွေ့ရလိမ့်မယ် လေးလေးနက်နက် စဉ်းစားဖို့အချိန်ရောက်လာပါပြီ၊ အားလုံးပဲ အားလုံးပဲ၊ အမေ မိဘ ညီအစ်ကို မောင်နှမ မတော်ဘူးတာ ဘယ်သူမှ မရှိသလောက်ပါပဲ။ ဘုရားဟောတော်မူလို့ သတိပေးတာပဲ ဒကာ ဒကာမတို့ ဖြစ်စဉ်လည်း ကြည့်ကြပါ သေသေချာချာကိုက်ပါတယ်၊ ဘာမှသံသယမရှိပါနဲ့၊ စုတိပြီး ပဋိသန္ဓေလာတာပဲ၊ သူက အနန္တရပစ္စည်း၊ သူက အနန္တရပစ္စည်း၏ ပစ္စယုပ္ပန်ကိုး ဘာမှ သံသယရှိ ဖို့ လိုသေးသလား။

အနန္တရပစ္စယော အခြားမရှိမှု၍ ကျေးဇူးပြု တတ်သောတရားသည်လည်းကောင်းဆိုတော့ သူလည်း စုတိစိတ်လည်းချုပ်ပါရော ဒီပဋိသန္ဓေက ချက်ချင်းလာတယ်၊ ချက်ချင်း ဖြစ်တယ်ဆိုတော့ ကြားထဲမှာ အခြားများရှိ သေးရဲ့လား။

အဲဒီတော့ ခင်ဗျားတို့ ဘာမှတွေးမနေနဲ့တော့ ဒီကပြန်လို့ ရှိရင်ဖြင့် ဒီမှာလာတဲ့အခါမှာဖြစ်စေ၊ ဒီကပြန်တဲ့အခါမှာဖြစ်စေ ကိုင်း တို့ကို ဆရာသမားက လေးလေးနက်နက်နဲ့ ပြောတာပဲ အကြောင်းဖြစ်စဉ်ကလည်း မှန်တာတကြောင်း၊ ဘုရားကိုယ်တိုင်ကလည်း အရေးတကြီးမှာခဲ့တာတကြောင်းဖြစ်လို့



မဂ်အလုပ်ပဲ လုပ်မယ်လို့ ဆုံးဖြတ်ချက်ချကြပါ၊ မဂ်အလုပ် ဆိုတာ ဖြစ်ပျက်ရှုတာပါပဲ။

မဂ်အလုပ် လုပ်လိုက်လို့ရှိရင်ဖြင့် ခုနင်က မျက်စိတစ်မှိတ် ကုဋေငါးထောင်ကျော် ဇောစိတ်တွေကဖြစ်ပျက်နေတော့ ဇောစိတ်တွေကို ရေတွက်နိုင်ရဲ့လား၊ အဲဒီအထဲမှာ မဂ်စစ်တစ်ခါပေါ်ရင် အပါယ်သွားရမည့်အကုသိုလ်ကံတွေ အကုန်လုံး အဟောသိကံဖြစ်တယ်၊ ဘာမှကြောက်စရာ မရှိဘူး၊ ဒါဖြင့် ဝိပဿနာအလုပ်၊ မဂ်အလုပ်သာ ကယ်တင်နိုင်တာပေါ့၊ ဒို့ပြင်ဟာကတော့ ယာယီပဲ ကယ်နိုင်တယ်နော်၊ မဂ်ကတော့ဖြင့် အမြဲကယ်နိုင်တယ်၊ အကုသိုလ်ကံတွေက အဟောသိကံဖြစ်အောင် ကယ်နိုင်တယ်၊ အဲဒီတော့သိန်းပေါင်းများစွာ ကြွေးတင်နေတာကို ဆားတစ်လျက်နဲ့ကျေပါ့မယ်လို့ ကြွေးရှင်တွေက ပြောနေပါလျက်သားနဲ့ ဆားကလေး တစ်လျက်မှ သွားပြီးမပေးချင်တာလည်း ခင်ဗျားတို့ဖျင်းလွန်းတယ်။

သိန်းပေါင်းများစွာကြွေးတင်နေတာကို ဆားတစ်လျက်နဲ့ကျေပါ့မယ်လို့ ကြွေးရှင်ကပြောနေတာတောင် မာန်ခံနေရင်တော့ ခက်တယ်၊ အဲဒီတော့ ခင်ဗျားတို့မှာ အကုသိုလ်ကြွေးပေါင်း မရေမတွက်နိုင်ပါဘူး၊ မဂ်တစ်ကြိမ်တည်းပေါ်ပါတဲ့ ပျောက်ပါတယ်။ ဒါဖြင့် ဒီမဂ်တစ်ကြိမ်တည်းပေါ်ဖို့ အလုပ်ကလေးကို ခင်ဗျားတို့ရှေးကိုင်ပြီး ကြွေးနည်းလို့နေတာလား၊ ခင်ဗျားတို့က မသိမလိမ္မာမှုကြောင့် ဒါလောက်ကလေးမှ အောက်ကျ နောက်ကျခံပြီး ဆားတစ်လျက်မှ မပေးချင်လို့

လားတောင် မေးဖို့လိုပါတယ်နော်။

အဲဒီတော့ ဒီမဂ်ကလေးကလည်းပဲ ကယ်မည့်ယူမည့်သူ မရှိတဲ့ဥစ္စာကို ကြိုးစားအားထုတ်မှုကလေးဖြင့် ဒီတစ်စ၊ တစ်စ ရအောင်တော့လုပ်ရမှာပဲဆိုတာမျိုး ဒီတစ်စ တစ်စကို မသုံးပါနဲ့၊ ကြွေးပိလာလိမ့်မယ်၊ တစ်စတစ်စဆိုတာ ခင်ဗျားတို့လုပ်ထားတဲ့ ဒီက တစ်စတစ်စပေါ်မှာ ဟိုကအစပေါင်းများစွာ လာလာဖုံးတယ်။ အဲဒါတွေထောက်ကြည့်တော့မှ မလုပ်ဖြစ်တဲ့အလုပ် ဟာ ကိုယ့်ကိုယ်ကယ်တင်မည့်အလုပ်ကိုပြောတာ၊ အဲကိုယ့် ကယ်တင်မည့်အလုပ်မို့ မလုပ်မဖြစ်တဲ့အလုပ်ထဲသွင်းပါလို့ သတိပေးလိုက်ပါတယ်၊ နို့မဟုတ်လို့ရှိရင်တော့ဗျာ သားကြား၊ သမီးကြား၊ ဆွေကြား၊ မျိုးကြားထဲကနေပြီးတော့ အပါယ်လေးပါးသွားရမှာနော်။

ဘယ်သူမှမကယ်နိုင်ဘူးဆိုတာ မကယ်နိုင်ခြင်း၏ အကြောင်းကို ခုနင်က သိန်းပေါင်းများစွာ အကုသိုလ်တွေက ဆက်ဆက် ဆက်ပြီးလာမှာပဲ၊ တစ်ခါကျရင် ပေါ်စရာများရှိသေးရဲ့လား၊ ကိုင်း ဒါဟာ ခင်ဗျားတို့ နောက်ဆုံးပိတ် အရေးကြီးတဲ့အချက်မို့ ဩော် ဒါမှတစ်ပါး ကိုးစားစရာ အားထားစရာ တို့မှာမရှိတော့ဘူး၊ ဒါကလေးတစ်ခုပဲ ကယ်မည့်သူ ယူမည့်သူရှိတယ်ဆိုသဖြင့် ဒို့ပြင်ဟာ အားကိုးမရှာနဲ့တော့။

ဝိပဿနာပဲ အားကိုးရှာရပါမယ် ၊ ဝိပဿနာမဂ်ပဲ၊ ဝိပဿနာမဂ်ကနေပြီး လောကုတ္တရာမဂ်ကို တက်ဖြစ်အောင်သာ ကြိုးစားပါ၊ ဒို့ပြင်ဟာတွေက မလုပ်မဖြစ်တာ မဟုတ်ဘူး



နော်၊ ဒီဟာကတော့ မလုပ်ရင် မဖြစ်ကိုမဖြစ်တာလို့ မှတ်ပါ၊ မလုပ်မဖြစ်ဆိုတာ ရှင်းရှင်းလင်းလင်း ပြောရရင် ကြွေးများလွန်းလို့ ကြွေးဆပ်တဲ့အလုပ်ကို မလုပ်မဖြစ်တာ။

ကြွေးက မရေမတွက်နိုင်အောင်များတယ်၊ အဲဒါဘာနဲ့ ဆပ်ရမတုံး၊ ဝိပဿနာမဂ်၊ လောကုတ္တရာမဂ်နဲ့ဆပ်ရပ့်မယ်၊ လောကုတ္တရာမဂ်ပေါ့ဗျာ၊ မဂ်နဲ့ဆပ်ရမယ်ဆိုကြပါစို့။ ကြွေးပေါင်းကလည်း ရေတွက်နိုင်ကြရဲ့လား၊ ဆားတစ်လျက်နဲ့ ကျေမည့်အလုပ်ကို မလုပ်ဖြစ်ဘူးဆိုရင်ဖြင့် သူ့ထက်မိုက် သူ့ထက်ညံ့ကတော့ မရှိတော့ဘူးဆိုတာ မသိတုန်းကတော့ မသိသလိုနေခဲ့တာက ဒီလိုသစ္စာတရားကို မနာရလို့ရှိပါစေတော့၊ အခုတော့ဖြင့် ဒီအလုပ်ဟာ ဩော် အဟုတ်ကယ်တင်နိုင်တဲ့အလုပ်ပဲ။

ဘယ်လောက်ပဲ မိုက်ခဲ့မိုက်ခဲ့၊ ဘယ်လောက်ပဲ တေခဲ့တေခဲ့၊ ဒီမဂ်သာရရင် အကုန်အဟောသိကံ ဖြစ်တာပဲ၊ ဝိပဿနာအလုပ်ဟာ ခင်ဗျားတို့လုပ်လို့ရှိရင်ဖြင့် ပဋ္ဌီက မဂ်ဆိုတဲ့ ဝိပဿနာမဂ်ငါးပါးရတယ်၊ နောက် ကြိုးစားလိုက်တော့ ဒုက္ခအဆုံးမြင်တော့ ရှစ်ပါးရတယ်၊ အဲဒီရှစ်ပါးလည်းရပါရော ဟိုဟာတွေ အကုန်အဟောသိကံဖြစ်တာပဲ၊ ဒီဘဝ လုပ်ထားတာတွေသာအဟောသိကံဖြစ်တယ်လို့မထင်ပါနဲ့၊ နောက်က စောင့်နေတာတွေတောင် အဟောသိကံဖြစ်တယ်။

ဒီဘဝမိုက်ထားတာတွေလည်း အကုန်အဟောသိကံ ဖြစ်ပါတယ်၊ ဒါဖြင့် ဆားတစ်လျက်နဲ့ ကျေတာကျေနပ်ပလား၊

ဩဿ ဘုရားသည် အကြိမ်ပေါင်းများစွာ မှာတော်မူတယ်ဆိုတာ ကျုပ်တို့ ခင်ဗျားတို့အပေါ်မှာဖြင့် ရာဟုလာသားကဲ့သို့ သနားတယ်၊ ရာဟုလာ ကျွတ်တမ်းဝင်လိမ့်မယ်ဆိုတာ မြင်တော်မူပြီးသားပဲ၊ ကျုပ်တို့ ကျွတ်တမ်းမဝင်မည့် လူတွေ သူနဲ့မတွေ့နိုင်တဲ့ သတ္တဝါတွေအတွက် ထားပစ်ခဲ့တဲ့ အမွေ၊ ထားပစ်ခဲ့တဲ့ မှာတမ်း။

အဲဒါတွေ သေသေချာချာထောက်ကြည့်တော့မှ ဩဿတို့အတွက် ပြောတဲ့စကားကို တို့ကနားမှာမထားတော့ဘူးဆိုရင်ဖြင့် တို့ထက်မိုက်တာ၊ တို့ထက်ပေတာတော့ မရှိတော့ဘူးဆိုတာ စဉ်းစားကြပါ။ ကဲ ကယ်မည့် တရားလေးတွေပါပြီ၊ ဆားတစ်လျက်နဲ့ကျေတယ်နော်၊ ဆားတစ်လျက်ဆိုတာ မဂ်တစ်ချက်ပေါ်ရင် ကျေတယ်။ ဘယ်လောက်ကြီး အကုသိုလ်ကံတွေဖြစ်ဖြစ်၊ အဟောသိကံဖြစ်ရပါမယ်၊ အဟောသိကံဖြစ်ရပါမယ်ဆိုတာ ဝတ္ထုသာဓကထုတ်၍ သတိတစ်ခု ပေးလိုက်ပါဦးမယ်၊ မိလက္ခုတိဿရဟန်း ဆိုတာရှိတယ်၊ ဒါ ဝတ္ထုသက်သေ လုံလောက်အောင်ထုတ်ပြပါ့မယ်။

မိလက္ခုတိဿ ရဟန်း ဆိုတာက သူ လူ့ဘဝတုန်းက မုဆိုးကိုးဗျ၊ တောထဲမှာသွားတယ်ဆိုရင် ကျော့ကွင်းတွေ ဘာတွေကို များစွာယူထားပြီး သားတွေ ဘာတွေ သမင်တွေကို ထောင်ဖမ်း၊ လက်နက်တွေနဲ့သတ်၊ အမျိုးမျိုးအဖုံဖုံ သူ့အလုပ်ဟာ ဒါနဲ့အသက်မွေးနေတယ်၊ တစ်သက်လုံးတော့ မုဆိုးအလုပ်နဲ့ အသက်မွေးနေတယ်၊ အဲဒီတော့ ကုသိုလ်လို့များ



ပါသေးရဲ့လား။ တစ်နေ့သဒ္ဓါကျတော့ သူ တောမုဆိုးလုပ်လာရတာ အသက်ရှည်လာတော့ စောစောစီးစီး ဘိစေချင်တာက အကုသိုလ်အလုပ်လည်း အကုသိုလ်စိတ်ဟာ ခုနစ်ခါ ခုနစ်ခါ ဇောခုနစ်ကြိမ်ဖြစ်တယ်နော်။

## ဇောခုနစ်ကြိမ်

အဲဒီတော့ ဇောခုနစ်ကြိမ်ပေါင်းဟာ ရေတွက်နိုင်ပါ့မလား၊ မရေတွက်နိုင်တော့ ၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇ ဟုတ်လား၊ အကုသိုလ်တစ်ခါလုပ်တယ်ဆိုရင် ဇောဟာ ခုနစ်ကြိမ်ဖြစ်တယ်။ ဟောဒီမှာကြည့် ဒီပထမဇောနံပါတ် ၁ - မနေဘူးလား၊ ဒီ ၁ - နံပါတ်မှာရှိတဲ့ ပထမဇောက ဒီဘဝ အကျိုးပေးမယ်တဲ့၊ ဒီအထဲမှာပါတဲ့ စေတနာက ဒီဘဝမှာ အကျိုးပေးရမယ်၊ ဟောဒီ ဒုတိယဇောမှ ဆဋ္ဌမဇောတိုင်အောင် အလယ်ငါးဇောက တတိယဘဝမှ နိဗ္ဗာန်မရမချင်းလိုက်ပြီး အကျိုးပေးမယ်၊ ၁ - နံပါတ် ဒီဘဝမှာပဲ အကျိုးပေးပါမယ်၊ ၇ - နံပါတ်မြောက်ကတော့ ဒုတိယဘဝမှာ အကျိုးပေးပါတယ်၊ အလယ်ငါးခုက နိဗ္ဗာန်ရသည့်တိုင်အောင် အကျိုးပေးပါမယ်၊ နိဗ္ဗာန်မရမချင်း အကျိုးပေးပါတယ်၊ တတိယဘဝအစလိုက်တာ ဩဿ - ဒီ အလယ်ဇောတွေက လိုက်နေကြတာကိုး။

ဒါဖြင့် ခင်ဗျားတို့မှာ နှုတ်ခမ်းကလေးစူရင်လည်း ဒီခုနစ်ကြိမ်လာတာပဲ၊ ဖိနပ်ကလေးဆောင့်နင်းရင်ကော ခုနစ်ကြိမ်လာပါတယ်၊ ကျုပ်စိတ်ထဲမှာ မကောင်းဘူးဆိုရင်ကော ခုနစ်

ကြိမ် လာပါတယ်၊ ဟော ဒါဖြင့် ခုနစ်ကြိမ်လာတော့ ဒီပဌာန အကြိမ်ဖြစ်တဲ့ဇောက ယခုဘဝအကျိုးပေးပါတယ်၊ ဒီသတ္တမ အကြိမ်ကတော့ ဒုတိယဘဝအကျိုးပေးပါတယ်၊ အလယ် ငါးခုကကော တတိယဘဝမှစ၍ နိဗ္ဗာန်မရမချင်း အကျိုးပေးပါ တယ်လို့မှတ်ပါ။

အဲ - တတိယဘဝမှစ - တယ်ဟုတ်လား၊ နိဗ္ဗာန်မရမီစပ် ကြားမှာ သူ အဟောသိကံမဖြစ်ဘဲနဲ့ အကျိုးပေးလိုက်နေမှာ ပဲ၊ ခုနင်ကပြောခဲ့တဲ့ မိလက္ခုမှုဆိုးမှာ ဒီ ပဌာနဇောပေါင်း မရေ တွက်နိုင်ပါဘူး၊ ဒါဖြင့် ဒီပဌာနဇောတွေက ဒီဘဝအကျိုးပေး နိုင်တယ်၊ ဒီဘဝတွင်ကို သူက ပေးလိမ့်မယ်။

ပဌာနဇောအကျိုးပေးပုံ

ကဲ ဒါဖြင့် ဒီဘဝအကျိုးပေးပုံကို ထုတ်ကြရမှာပေါ့၊ သူ ဟာ တစ်ခါတည်း တောမုဆိုးလုပ်ပြီး သားကောင်တွေကို သတ်ဖြတ်စားသောက် ရောင်းချ၊ ဒါနဲ့ သားတွေ မယားတွေကို ကျွေး၊ ဒီလိုနဲ့ချည်းပဲ အချိန်ကုန်ပြီးလာတာ တစ်နေ့သဲ့ကျ တော့ သူ့ကျော့ကွင်းတွေနဲ့ တောထဲသွား၊ ရတဲ့သားကောင် ကို နေရာမှာပဲ သတ်ဖြတ်ကင်ပြုစားတော့ ရေဆာလောင် မွတ်သိပ်ပါတယ်၊ ရေဆာလာတာနဲ့ကျောင်းတစ်ကျောင်း သွားတွေ့တော့ ရဟန်းတော်တစ်ပါးက သင်္ကန်းချုပ်နေတယ်၊ ရေအိုးမြင်တာနဲ့ သူကလည်း ရေအိုးစင်ဆီကို ဝင်တာပေါ့ဗျာ။

ရေအိုးစင်ဆိုတော့ ရေကို ရဟန်းဆီမှာ မတောင်းတော့ ဘူး၊ ရေအိုးစင်ဆိုတာ လှူတိုင်းသောက်နိုင်တယ်ဆိုတာ သူသိ



တာနဲ့ ရေခပ်လိုက်တော့တာပဲ၊ ရေအပြည့်ထည့်ထားတဲ့ ရေအိုးဟာ ရေမရှိတော့ဘဲ ချောက် ချောက် ချောက်မြည်နေ တယ်၊ ရေအပြည့်ထည့်ထားတာကို ချောက် ချောက်မြည်နေ တယ်၊ ရေပျောက်သွားတယ်။

ဒါ မုဆိုးခပ်လို့ ရေရှိလျက်နဲ့ ရေပျောက်နေတာနော်၊ ပဌာနဇောသတ္တိပါ၊ ဟောဒီဘဝတွင်ပင် အကျိုးပေးတာနော်၊ ဒါကြောင့် - ဒီပဌာနဇောအကြောင်းကို ရှေ့ပိုင်းကရှင်းလင်းပြ ခဲ့တယ်၊ ကဲ ပဌာနဇောက ယခုဘဝနော်၊ ခုနစ်ရက်၊ ခုနစ်လ၊ ခုနစ်နှစ်အတွင်း အကျိုးပေးတာ ဒီဇောကပဲ၊ တစ်ခါလုပ်လို့ရှိ ရင်၊ နစ်ရက်၊ ခုနစ်လ၊ ခုနစ်နှစ်အတွင်း သူက အကျိုးပေးနိုင် တာပဲ၊ ဒီဟာ ဗဟုသုတလည်းဖြစ်ကရော လိုရင်းလည်း ခင်ဗျားတို့ ပေါ့နေတာကိုလည်း မပေါ့အောင်လို့ ဒီအဓိပ္ပာယ် ပြောနေတာ၊ ပေါ့နေတာ ဒီအဓိပ္ပာယ်သိတော့ မပေါ့နိုင်တော့ ဘူးပေါ့။

ရေအိုးဟာ ချောက် ချောက်မြည်ပါတယ်ဆိုကတည်းက ရေပျောက်လို့ပဲ၊ ရေရှိရင် မမြည်ပါဘူး၊ ရေခပ်တယ်ဆိုရင် ရေ တင်ပါလာမှာပေါ့၊ ရေအိုးဟာ ဘာမြည်စရာရှိသေးသလဲ။ အဲဒီတွင် သူ့စိတ်ထဲမှာဖြစ်လာတယ်၊ ဪ် - ငါသွားခပ်တဲ့ ရေအိုးမှာ ရေလည်းမရှိဘူး၊ ရဟန်းကလည်း ဒီအနားမှာ သင်္ကန်းချုပ်နေတယ်၊ ဒီမုဆိုးကပဲ အပြစ်တင်လိုက်သေး တယ်၊ ရဟန်းတွေဟာ သူတစ်ပါးတွေလှူတာ၊ ပေးတာ ဟာမ်း တာတွေစားပြီး ကိုယ့်ကျောင်းမှာ သေနာသနဝင်ဆိုတဲ့ ရေ

ကလေးတောင်မှ ပြည့်အောင်မခပ်ဘူးတဲ့၊ သူကပဲမြည်ကာတွန်ကာနဲ့ နေလိုက်သေးတယ်၊ ရေပျောက်တာက သူ့ကြောင့်ပျောက်တာနော်။

အဲဒါနဲ့ ရဟန်းကကြားရော ရဟန်းကလည်း ရဟန္တာ၊ ရဟန်းကကြားတော့ ငါမနက်ကပဲ ရေအိုးတွေ ရေအပြည့်အကုန်ထည့်ထားပါလျက်နဲ့ သူခပ်တော့ ရေအိုးကမြည်နေတယ်၊ ရေလည်း သူ့မှာသောက်ရာရတာမဟုတ်ဘူး၊ ငါ့ကိုတောင် အပြစ်တင်ပြီးနေသေးတယ်၊ ငါသွားကြည့်ဦးမယ်ဆိုပြီး သွားပြီးကြည့်လိုက်တော့ ရေအပြည့်ပဲရှိတယ်။

ဒကာ ဒကာမတို့ ပထမဈေးအကျိုးပေးပါတယ်၊ ဟာသိပ်ကြောက်စရာကောင်းပါလားဟေ့ ပထမဈေးအကျိုးပေးတယ်ဆိုတော့ ဒီဘဝတွင်ပင် အကျိုးပေးတာ ငြင်းစရာမရှိပါဘူးနော်။

ကောင်းပြီ၊ ဒါနဲ့ ရဟန်းကထကြည့်ပြီးတော့ ရေအပြည့်ပဲရှိတယ်၊ ဒါနဲ့ သူ့ကိုမေးတယ်၊ ဒကာလာပါဦး၊ ဘာကိစ္စတုံး၊ ရေသောက်ချင်တာပဲမဟုတ်လားမေးတော့၊ ရေသောက်ချင်ပါတယ်ဆိုတော့ ရဟန်းကခပ်ပေးတော့လည်း သူ ၀ - အောင်ပဲသောက်ရတယ်၊ သူ့သာခပ်ရင်တော့ မရတော့ဘူး။ ခင်ဗျားတို့လည်း စကားစပ်မိလို့ ထည့်ပြီးဆုံးမရမှာပဲ၊ ငွေတွင်းနက်တယ့်ဘုရား၊ ငွေတွင်းနက်တယ် စသည်နဲ့ သုံးစွဲလာကြတယ်၊ ငွေပျောက်လာပြီ ဘယ်သူကအကျိုးပေးတယ် ဆိုတာရိပ်မိကြပလား၊ ပထမဈေးကပါပဲနော်။



အစာရေစာတွေရှားပါးခေါင်းပါးလာကြတယ်၊ ဘယ်ဈေးသတ္တိပါလိမ့်၊ ပထမဈေးပါ၊ ပြီးတော့ ခင်ဗျားတို့ပါးစပ်ကဘယ့်နှယ်များ ညည်းသတုံး ငွေတွင်းနက်တယ်လို့ ညည်းပါတယ်၊ ငွေတွင်းနက်တယ်၊ ရွှေတွင်းနက်တယ် ဖြစ်လာကြတယ်၊ အခု ကမ္ဘာလောကကြီးမှာ မဖြစ်သေးဘူးလား၊ ဖြစ်တန်သလောက်ဖြစ်နေပြီ၊ ဒါ ပထမဈေးသတ္တိပါပဲ။

အဲဒါ ကိုယ်တိုင်စဉ်းစားကြည့်ပါ၊ တို့ဟာ ဘယ်လိုများနေကြရ ထိုင်ကြရသတုံး၊ ဟိုကမ္ဘာစစ်ကြီးမဖြစ်မီက နေခဲ့ကြရထိုင်ခဲ့ကြရတာနဲ့ အခုကမ္ဘာစစ်ကြီးပြီးမှ နေကြရ ထိုင်ကြရတာနဲ့ ရှေ့အနာဂတ်စစ်မက်အချိန်တွေ နေရ ထိုင်ရမှာနဲ့အမျိုးမျိုးချိန်ကြည့်ကြတာပေါ့ဗျာ၊ ချိန်တဲ့အခါကျလို့ရှိရင်ဖြင့်ရှားပါးလာတာဟာ ပိုပိုလာပါလိမ့်မယ်၊ တစ်ကမ္ဘာလုံးမှာ ပိုပါတယ်။

အဲဒါ ပစ္စည်းကတော့ သူ့ရာသီနဲ့၊ သူ့ဝတ္တုနဲ့ပေါ်လျက်ဖြစ်လျက်ပဲ၊ သို့သော် ကိုယ့်လက်ထဲမရောက်တာက သေချာနေတယ်၊ဘယ်သူ့သတ္တိပါလိမ့်၊ ပထမဈေးပါ၊ အကုသိုလ် ပထမဈေးပါပဲ၊ ဒီပထမဈေးတွေကလည်း အကျိုးပေးနေတာအထင်အရှားဖြစ်နေတော့ ကမ္ဘာလောကကြီးမှာလည်း မိုးကလည်းခေါင်လိုက်တာမဟုတ်လား၊ မရွာသင့်တဲ့အချိန်ရွာ၊ ရွာသင့်တဲ့အချိန် မရွာဘဲနဲ့ တိုတိုပြောမယ်ဆိုလို့ရှိရင် ဒကာဒကာမတို့အခုလိုအခါမျိုးမှာ မြေကြီးဟာအောက်မှာ မြေငြိဖာရောက်သွားတယ်။

စိုက်တဲ့သစ်ပင် အသီးအနှံစသည်တို့ ဖွံ့ဖွံ့ဖြိုးဖြိုး မလာနိုင်ဘူး၊ မြေဩဇာအောက်ရောက်သွားတော့ ဘယ်လိုပင် အပေါ်ကဖြူးငြားသော်လည်း သူ့ပင်ကိုယ်လောက်တော့ မကောင်းပါ။ အဲဒါ ခုနင်ကပြောခဲ့တဲ့ ပထမဇောတွေကနေပြီး အကျိုးပေးချလိုက်တာ၊ မကောင်းကျိုးပေါ့ဗျာ။

အဲဒါတွေထောက်ကြည့်တော့မှ ဩော် - မြန်မြန်လုပ်မှတော်တော့မယ်၊ ဒါဖြင့် ခုနင်က မုဆိုးဟာ ရဟန်းခပ်ပေးတော့ ရေသောက်ရတယ်၊ သူကိုယ်တိုင်ခပ်တော့ ရေအိုးချောက်ချောက်မြည်ပါတယ်ဆိုတာ ထောက်သဖြင့်လည်း တို့ဖြစ်စဉ်နဲ့လည်း ခပ်ဆင်ဆင်ပါကလားလို့ တွေးကြပါတော့။

နောက်ကျတော့ လုံးလုံးတူချင် တူပါလိမ့်မယ်၊ အခုတော့ ဆင်ရုံပဲရှိသေးတယ်၊ လုံးလုံးတူရင်တော့ဖြင့် ခင်ဗျားတို့ ဒုက္ခရောက်တော့မယ်၊ အခုတော့ ဆင်ရုံပဲရှိပါသေးတယ်၊ နောက် ချွတ်စွပ်တူက တူနိုင်ပါသေးတယ် ၊ လာနိုင်တယ်၊ မိုးသာ သုံးနှစ်လောက်ခေါင်လိုက်မယ်ဆို ဒါဟာ အကုန် အကုန်သွားတော့မှာပဲ၊ ကောင်းပြီ၊ ပထမဇော သတ္တိသိကြပြီ။

ခုနင်က ဝတ္ထုပြန်ဆက်ကြစို့၊ ဒါနဲ့ ရဟန်းက လူပြိတ္တာဖြစ်နေပါပေါ့လားလို့ ပြောလိုက်တော့ သတိရပြီး ဩော် - ငါ့အကုသိုလ်တွေဟာ အင်မတန်ကြီးနေပါပေါ့လားလို့ ချက်ချင်းသံဝေဂရတယ်၊ သူ့ အကုသိုလ် အင်မတန်ကြီးနေပြီဆိုတာ ကြည့်ပါလား၊ လက်တွေ့ပဲမဟုတ်လား၊ ရဟန်းခပ်တိုက်တဲ့အခါ သူ ဝအောင်သောက်ရတယ်၊ သူကိုယ်တိုင်ခပ်လို့ရှိရင်



ဘယ်အိုး ခပ်လို့မှ ရတော့မှာမဟုတ်တော့ဘူး။

ဒကာ ဒကာမတို့ ဒါဟာ မသေခင်က ပြနေတာပါ၊ အဲ မသေခင်ကပြတော့ သေခါနီးကျတော့ ဒီနိမိတ်တွေလာမှာလား၊ မလာဘူးလား၊ အဲဒါကြောင့် ခုနင်က ဘုရားဟောတဲ့ ပါဠိတော်ကို သတိပေးရတာ၊ အခုမသေခင်ဘဲ သေသေချာချာ ပေါ်နေပါတယ်နော်။ ကိုင်း ဒါနဲ့ပဲ သူ့စိတ်ထဲမှာ သံဝေဂရတယ်၊ မသေခင်ကပင် ငါဟာလူပြိတ္တာဖြစ်နေပါပေါ့လား၊ လူပြိတ္တာဖြစ်နေပြီ၊ စားရမဲ့ သောက်ရမဲ့တောင် ဖြစ်နေပါပေါ့လား၊ ရေအိုးထဲကရေတောင် ပျောက်ပါပေါ့လားဆိုပြီး တပည့်တော်ဘုရား သင်္ကန်း ဝတ်ပါရစေဆိုပြီး သူက တောင်းပန်တယ်။

အေး ဒကာ ဝတ်တာပေါ့ကွာဆိုပြီး ကျောင်းမှာရှိတဲ့ သင်္ကန်းကလေး ဘာကလေးထုတ်ပြီး သူ့ကိုအဝတ်ခိုင်းတယ်၊ အဝတ်ခိုင်းပြီးတော့ တရားခမ္မကို ထိုက်တန်သလောက်ပေးထားငြားသော်လည်း သူ မရှုနိုင်ဘူး၊ သူ့စိတ်ထဲမှာ ခုနင်က ကျော့ကွင်းတွေ၊ ခုတ်တဲ့ဓားတွေ၊ ဒါတွေချည့်လာထင်နေတယ်။ ဝိပဿနာရှုတဲ့အခါမှာလဲ ရှုလို့မရဘဲ မဟုတ်တာတွေ လာထင်နေတယ်၊ ခင်ဗျားတို့ ဝိပဿနာရှုတဲ့အခါလည်း သတိထားရသေးတယ်၊ သားကလေးများလာပြီးထင်၊ သမီးကလေးများလာပြီးထင်နဲ့ ပြိတ္တာဖြစ်မလို့ဆိုတာ သေချာနေကြပါဦးမယ်၊ သားသမီးများလာပြီးထင်တတ်ပါတယ်၊ အင်း သူတို့အတွက် ခက်သေးတယ်ဆိုတဲ့ အဓိပ္ပါယ် ပါနေကြမယ်နော်။

အရုပ်ဆိုးတဲ့ဥစ္စာတော့ မပေါ်မှနော် သူမှာတော့ ကျော့ကွင်းတွေ၊ မားတွေစတဲ့ သူလုပ်ခဲ့တဲ့ နိမိတ်တွေလာထင်တယ်၊ သူလုပ်ခဲ့တဲ့ဖြစ်စဉ်တွေ လာထင်နေတော့ ဆရာရဟန်းကိုသွားပြီးလျှောက်တယ်၊ ဘယ့်နှယ်ဖြစ်တာတုံးမေးတော့ သူ့အဖြစ်တွေလျှောက်တယ်၊ ရဟန္တာကြီး သွားလျှောက်တယ် အရှင်ဘုရား တပည့်တော်တော့ တပည့်တော်အကြောင်းနဲ့ တပည့်တော် ရှိပါစေတော့။

ဒီလို ဒီလိုပဲဘုရား၊ အရှင်ဘုရားကတော့ ဖြစ်ပျက်အရှုနိုင်းတာပဲ၊ တပည့်တော်ဖြစ်စဉ်ကတော့ ကျော့ကွင်းတွေ၊ မားတွေ၊လုံတွေ၊ ဒါတွေချည်းပဲ၊ ကိုယ်လုပ်ခဲ့တာတွေချည့် ပြန်ပေါ်နေတယ်။

ဩော် ဒကာကြီး လူထွက်ချင်သကိုး၊ ဒါဖြင့် လူထွက်ချင်လို့ရှိရင် မထွက်ရဘူးလို့တော့ မဆိုလိုပါဘူး၊ ကဲ ကဲ သာသနာမပျော်လို့ လူထွက်ချင်ရင် ဒကာ်ထမ်းတဲ့အနေနဲ့ လက်နဲ့လုပ်ရမည့်အလုပ်တစ်ခုခု လုပ်နိုင်းတော့ မိလက္ခကိုရင်ကြီးကရေသဖန်းသားစတဲ့ စိုနေတဲ့ အသားအကိုင်းအခက်တွေခုတ်ပြီး အပုံကြီးပုံပေးလိုက်တယ်၊ ဒကာ်ကြေအောင်ပေါ့လေ၊လူထွက်ခါနီး နိုင်းတဲ့သဘောပဲ၊ သဖန်းသားတွေဆိုတာကတော့ မြင်ဖူးမှာပေါ့၊ ခုတ်လိုက်တယ်ဆိုလို့ရှိရင် အစေးထွက်တာပဲ။

ဒီနေရာပုံကွာ၊ ပုံတဲ့အခါကျတော့ မနက်က အခုတ်နိုင်းတာ၊ ညနေကျတော့ တစ်ပုံကြီးလောက် ဖြစ်နေတာပေါ့ဗျာ၊ သွားကွာ၊ ဟောဒီ မီးခတ်ကျောက်နဲ့ မီးခွက်သွားယူစမ်း၊ အဲဒါ



ကို မီးရှို့ဆိုပြီး လေးဘက်လှည့်အရှို့နိုင်းတယ်၊ ဘယ့်နှယ်လုပ်လောင်မလဲဗျာ၊ လောင်စရာကော အကြောင်းရှိသေးရဲ့လား၊ သဖန်းသားဆိုတာ နဂိုဩကိုက အစေးထွက်နေတာ မီးခြစ်လေး၊ မီးခတ်ကလေးနဲ့ရှို့လို့ ဘယ့်နှယ်လုပ် လောင်မလဲဗျာ။

မလောင်တော့လာလျှောက်တယ်၊အရှင်ဘုရား တပည့်တော်ရှို့တာမလောင်ဘူး၊ အေး မလောင်တာ မင်းမှတ်ထား။ မလောင်မှန်းသိလျက်နဲ့ အရှို့နိုင်းတာ၊ ဒါနဲ့ ရဟန္တာဖြစ်တဲ့သူက ဒကာ၊ ဒီအနားရပ်၊ ဘုန်းကြီးအနားရပ်ဆိုပြီး ကြည့်ဆိုပြီး မြေကြီးကိုတန်ခိုးနဲ့နှစ်ခြမ်းခွဲလိုက်တယ်။

## ငရဲသားတွေကို မြင်ရတယ်

အောက်မှာ ငရဲတွေပြတယ်၊ သူမြင်လောက်အောင် ပြတယ်၊ တန်ခိုးနဲ့ပြလိုက်တယ်၊ ကြည့်၊ မြင်အောင်ကြည့်ဆိုပြီး မြေကြီးနှစ်ခြမ်းခွဲပြီးပြလိုက်တော့ သူ့အမျိုးတွေရော၊ သူ့အဆွေတွေရော၊ သူ့မိတ်သင်္ဂဟတွေရော မတွေ့ရဘူးလား၊ ငရဲထဲမှာအော်ပြီး ခံနေကြရတယ်။ ဒကာမြင်ပြီလား၊ မြင်ပြီးပြီ၊ သိပြီ ရဟန်းက တန်ခိုးနဲ့ပဲသွားပြီး၊ ဆင်းပြီး၊ ငရဲသွားပြီး ဝိုးစုန်းကြူးလောက် ငရဲမီးကလေးကို မီးကျီးထဲက သွားနှိုက်လိုက်တယ်၊ နောက်ညှပ်ပြီး ယူလာတယ်၊ ယူတာလည်း သူ့အမြင်သားပဲ၊ ငရဲသားတွေကိုလည်း သူအမြင်သားပဲ။ ဟိုမှာခံနေရတဲ့ သူ့အမျိုး၊ သူ့အဆွေတွေကော သူအမြင်သားပဲ။

အဲဒီ မီးကလေးကို သူ လှည်းငါးစီးတိုက်လောက် ပုံထား

တဲ့ သဖန်းသားတွေထဲမှာ ထည့်လိုက်ပါရော၊ သူ့ရှေ့မှာ ကျသည်နှင့်တစ်ပြိုင်နက် အကုန်ပြာကျတယ်၊ ငရဲမီးတွေ ဘယ်လောက်ပြင်းသလဲ၊ ရောက်သည်နှင့်တစ်ပြိုင်နက် ဟိုဟာတွေပြာကျတာပဲ။ အဲဒီတော့မှ ဟိုနနက လူထွက်ချင်တဲ့လူက လန့်သွားတယ်၊ ဟိုမှာလည်း ငရဲကိုလည်း ကိုယ်ကိုယ်တိုင်မြင်ရ၊ ငရဲမီး ပြင်းထန်ပုံကော ကိုယ်တိုင်တွေ့ရပြီ။ သူတစ်နေ့လုံးရှို့နေတဲ့ သဖန်းသားပုံကြီး မလောင်တာကို ငရဲမီးကလေးကျသည်နဲ့ တစ်ပြိုင်နက်တည်း အကုန်ပြာကျသွားတယ်။

ဒါဖြင့် ဘုရား၊ တပည့်တော်ဖြင့်ခက်တော့တာပဲ၊ အင်းမင်းကို ဒါကြောင့်ပြောတာ၊ ငရဲမီးဆိုတာ အင်မတန်ပြင်းတယ် မင်းလည်းကိုယ်တွေ့ မင်းသွားရမယ့်လမ်းလည်း ဒီအတိုင်းမြင်ပြီ၊ ငရဲမီးပြင်းတာကို ငါယူပြပြီးပြီ၊ မင်းဘယ့်နှယ်လုပ်မလဲ၊ တပည့်တော် အရှိုးကြေကြေ၊ အရေခမ်းခမ်း လုပ်ပါ့မယ်။

စိတ်ပြောင်းပြန်ပြီ၊ ဟိုမှာ ရေခမ်းတာသာကြည့်တော့၊ ခင်ဗျားတို့လည်း ချောင်ချောင်၊ ချောင်ချောင်မမြည်သေးဘူးလား၊ သေတ္တာဖွင့်လိုက်ရင် မြည်ကုန်ပါပြီ၊ သေရာပြီမဟုတ်လား။ ရှေ့ကိုဖြင့် ဒီအတိုင်းနေရင် ငရဲခန်းတွေနဲ့ လွတ်နိုင်ဦးမလား၊ ရှေ့မှာငရဲအခန်းပဲရှိတော့တယ်ဆိုတာ သေသေချာချာရှင်းပြ နေတာနော်၊ ဒါနဲ့ သူ့စိတ်ထဲမှာ ကိုင်း ဒီခန္ဓာကြီးတော့ ငဲ့နေလို့ မဖြစ်တော့ဘူးဆိုပြီး တရားအားထုတ်မှုဖြစ်ပျက်ပဲ ကြိုးစားပါတော့မယ်လို့ သူဟာ ရဟန္တာဆီမှာ တာဝန်ခံလိုက်တယ်၊ ရဟန္တာကလည်း ဂါထာကလေးတစ်ခုရွတ်လိုက်



တယ်။

ဥဋ္ဌာနဝတော သတီမတော၊ သုစိကမ္မဿ
နိသမ္မကာရိနော၊ သညတဿ ဓမ္မဇီဝိနော၊
အပ္ပမတ္တဿ ယသောဘိဝဍ္ဎတိ။

မြန်မာပြန် - ထကြွလုံ့လရှိသူ သတိရှိသူစင်ကြယ်သော ကံသုံးပါးရှိသူ စူးစမ်း၍ ပြုလေ့ရှိသူ ဣန္ဒြေကိုစောင့်စည်းသူ တရားသဖြင့် အသက်မွေးသူ မမေ့မလျော့သူအား အခြွေအရံ အကျော်စောသည်တိုးပွား၏။

ဒီဂါထာရဲ့အဓိပ္ပာယ်က လုံ့လဝီရိယရှိလို့ရှိရင် သတိထားဝီရိယစိုက်၊ ပညာနဲ့ရှုရင် ရနိုင်တယ်ဆိုတဲ့ဂါထာပဲ၊သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ရှုရမယ်၊ ဖြစ်ပျက်ကိုတွေ့ရမယ်၊ ဖြစ်ပျက်တွေ့ရင် မပူနဲ့တော့၊ ဖြစ်ပျက်တွေ့ရင်ပဲ နေရာကျပြီ၊ မဂ်ဆီသို့ ဦးတည်နေပြီ၊ ဖြစ်ပျက်တွေ့တယ်ဆိုကတည်းက မဂ္ဂင်ငါးပါး ပေါ်လို့တွေ့တာပဲ။

သတိထား၊ဝီရိယစိုက်၊ ပညာနဲ့ရှု

ဖြစ်ပျက်တွေ့တယ်ဆိုကတည်းက မဂ္ဂင်ငါးပါး ပေါ်လို့တွေ့တာပါ၊ ဒါဖြင့် မဂ္ဂင်ငါးပါး ပေါ်အောင် ဖြစ်ပျက်ရှုရပါမယ်၊ ဖြစ်ပျက်ပေါ်အောင် သတိထား၊ဝီရိယစိုက်၊ ပညာနဲ့ရှု၊ သတိထားဆိုကတည်းက သတိမဂ္ဂင် ပါတယ်နော်၊ သတိထားတော့ သတိနဲ့၊ သမာဓိနဲ့က ခွဲလို့မရတော့ သမာဓိမဂ္ဂင်လည်း ပါနေတယ်၊ ဝီရိယစိုက်ဆိုတော့ သမာဓိ မဂ္ဂင်ထဲက သူခေါင်းဆောင်

မနေဘူးလား၊ ပညာနဲ့ရှုဆိုတော့ ပညာမဂ္ဂင်နှစ်ပါး မပါဘူးလား။

ပညာဟာ သမ္မာဒိဋ္ဌိဆိုတော့ သမ္မာသင်္ကပ္ပတွဲလျက်ဝင်လာတယ်၊ ဒါကြောင့် သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ရှုဆိုရင် မဂ္ဂင်ငါးပါးပါတယ်၊ အဲ ဖြစ်ပေါ်လာတဲ့တရားကလေး ခန္ဓာကြည့်ပြီး သတိထားလိုက်လို့ရှိရင်ဖြင့် ဝီရိယစိုက်ပြီး ကြည့်လို့ရှိရင် ပညာတစ်ခါတည်း ဖြစ်ပျက်မြင်လာတာပဲ။

အဲဒီ ဂါထာကလေးကို သူကြားရတော့ ဗြဟ္မာ ငါလိုပုဂ္ဂိုလ်ကို ဒီသုံးချက်အလုပ်နိုင်းတာကိုးလို့ သူသိတယ်၊ ကိုင်း ဒီသုံးချက်ကတော့ဖြင့် လက်လွှတ်မခံဘူး၊ သတိလည်းထားမယ်၊ ဝီရိယလည်းစိုက်မယ်၊ ပညာနဲ့လည်းရှုမယ်၊ ခန္ဓာကိုဆိုပြီး သူပေါ်လာတယ်၊ ပေါ်လာတော့ ငရဲကိုသွားရမှာလည်း ကိုယ်ကိုယ်တိုင် နားလည်ပြီးသား၊ ငရဲမီးပုံကိုလည်း အကုန်သိပြီ၊ ငရဲမီး ပူတာဟာ မြင်ပြီးပြီနော်။

အဲဒါတွေမြင်တော့ ထီနမိဒ္ဓဆိုတာ အိပ်ချင်တယ်၊ ငိုက်မျဉ်းတယ်၊ မအိပ်မနေ လုပ်နေတော့မယ်ဆိုပြီး ခေါင်းပေါ်မှာ တစ်ခါတည်း ကောက်ရိုးကရွတ်ခွေကြီးတွေကို ရေဆွတ်ပြီး စည်းထားတယ်၊ အေးတော့မအိပ်ဘူး၊ ခေါင်းပေါ်ကလည်း ရေတစ်စက်ကျတော့ မျက်တောင်စင်းနိုင်းသေးရဲ့လား။

မစင်းနိုင်တော့ဘူး၊ မျက်လုံးက တစ်ခါတည်း ကျယ်နေတော့တာပဲ၊ ကရွတ်ခွေကိုလည်း ရေစိမ်ပြီးမှလည်း ခေါင်းပေါ်တင်ထားတယ်၊ အောက်ကလည်း ခြေထောက်ကို အဝတ်စိုတွေနဲ့ ပတ်ထားတယ် စည်းထားတယ်၊ အဲဒီလို လုပ်ပြီးတော့မှ



ခုနင်ကပြောခဲ့တဲ့ သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ရှုတယ်၊ ဒီတော့ အိပ်ဖြစ်သေးရဲ့လား၊ သူ ဘာဖြစ်လို့ မအိပ်ဖြစ်တာတုံး ဆိုတော့ သူကိုယ်တိုင် ငရဲလည်းသိပြီ၊ ငရဲမီးထက်ပုံကော မြင်ရပါပြီ။

သူကိုယ်တိုင်မြင်ရတော့ ဒီအလုပ်ကို ကရွတ်ခွေကြီး ခေါင်းပေါ်မှာ စွပ်ထားတာလည်း မအိပ်ချင်အောင်ပဲ၊ ခြေထောက်ကို အဝတ်ရေဆွတ်ပြီး ပတ်ထားတာကော မအိပ်ချင်အောင်လို့ပါပဲ၊ ပြီးတော့ သူကစင်္ကြံသွားတယ်၊ စင်္ကြံသွားရင်း တရားကိုကြိုးစားတယ်။

စင်္ကြံနဲ့ ကြိုးစားနေတော့ ထင်ရှားသားပဲ၊ လမ်းမှာ ခြေဖဝါးချတယ်ဆိုရင် ဒုက္ခဝေဒနာ ပေါ်တာပဲ၊ ဒီဘက်ချတော့ကော ဒုက္ခဝေဒနာ ပေါ်တာပါပဲ၊ ပေါ်တာကလေးကို သူပျက်တယ်၊ ပျက်တယ် ကြည့်မှာပဲ၊ ခြေထောက်နဲ့မြေနဲ့ ထိတယ်ဆိုရင် ထိရာမှာ ပေါ်မှာပါ၊ ဝေဒနာတော့ ပေါ်ရမယ်၊ ပေါ်တာကို ဖြစ်ပျက်ရှုရပါတယ်၊ သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ကြည့်နေတာ။ သတိထားတော့ ပေါ်တာသိတာပေါ့၊ ဝီရိယစိုက်ကြည့်လိုက်တဲ့အခါကျတော့ ဗြဟ္မာ ဒါဟာ ဒုက္ခဝေဒနာကလေးပဲဆိုတာ မသေချာဘူးလား၊ ပညာနဲ့ကြည့်လိုက်တဲ့အခါ ပျက်သွားပြီ၊ မလာပေဘူးလား၊ အဲဒါ ခင်ဗျားတို့ ဒီအတိုင်း စင်္ကြံသွားပြီး လုပ်လည်းရတာပဲ၊ ခန္ဓာကိုယ်၌ ထိုင်နေရင်းလုပ်ရင်ကော ရပါတယ်နော်။

ဒါနဲ့ အဲဒီမိလက္ခရဟန်းက ဒီအတိုင်းလုပ်လိုက်တာ မိုး

လင်းတော့ သောတာပန်တင်မကဘူး၊ အနာဂါမ်ထိအောင် တည်တယ်၊ အနာဂါမ်တည်တော့ တစ်သက်လုံးမှဆိုးလုပ်လာတဲ့ဟာတွေ အကုန်အဟောသိကံဖြစ်တယ်၊ ဆားတစ်လျက်နဲ့ကျေတာပဲဗျာ၊ တစ်သက်လုံးလုပ်လာတာတွေဟာ အခု မဂ်တစ်ချက်တည်းနဲ့ပဲ နေရာကျသွားတယ်။

ဒါဖြင့် ငရဲသေချာပြီလား ပုဂ္ဂိုလ်တောင်ကယ်တင်တာပဲ ငရဲမီးပုပ့်ကို သဖန်းသားအစိုတွေ မီးရှို့ပြတယ်၊ အဲဒီတော့ ဒီလမ်းနဲ့ ဒီစခန်းကို သေချာသလောက်ရှိတဲ့ပုဂ္ဂိုလ်တောင်မှ ကယ်တင်နိုင်တယ်။ ဘုန်းကြီးဟောနေတဲ့ တရားဟာ ကယ်ယူမည့် တရားဖြစ်လေသောကြောင့် ခင်ဗျားတို့က ကယ်ယူမှုကို ကိုယ်ပိုင်ရှိအောင်လုပ်ပါ။ ကယ်ယူမှုတရားဆိုတာလည်း ရိပ်မိပြီ၊ သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ရှု၊ အဲဒီ ပထမငါးပါးဖြစ်မယ် နောက်တော့ ရင့်ကျက်လာရင် ရှစ်ပါးလာပြီးဖြစ်မယ်၊ သတိမဂ္ဂင်၊ သမာဓိမဂ္ဂင်၊ ဝီရိယမဂ္ဂင်၊ ပညာမဂ္ဂင်တို့နဲ့ ရှုတာဗျ၊ ဒါဟာ ခဲယဉ်းစရာ မရှိပါဘူး။

ကိုင်း ဒါဖြင့် ဒီပုဂ္ဂိုလ်သည် အနာဂါမ်တည်တယ်ဆိုတာ သာမန်အနေနဲ့ကြည့်ရင် ဒီပုဂ္ဂိုလ်မျိုးတည်နိုင်စရာတောင်မရှိဘူး၊ သို့သော်သူ့မှာလုံ့လဝီရိယပိုလာတယ်၊ မအိပ်ဖြစ်အောင်လည်း ခေါင်းပေါ်မှာ အအေးကြီးစွပ်ထားတယ်၊ ခြေထောက်နှစ်ဖက်မှာလည်း ဂုန်အိတ်တွေရေဆွတ်ပြီး ပတ် ထားတယ်ဆိုတော့ ဒီဒုက္ခဟာ ငရဲထက်တော့ မဆိုးတော့ဘူး၊ ငရဲကျသွားမယ်ဆိုတော့ သက်သာခွင့်ပါသေးရဲ့လား၊ အဲဒါကို ထောက်ဆပြီး



ဒီဥစ္စာကို ရဲရဲတင်းတင်းလုပ်ရဲတာပဲ။

အဲဒီတော့ ခင်ဗျားတို့မှာ ဒါလောက်တောင်မရှိသေးပါဘူး၊ ဒါလုပ်မယ်ဆိုလို့ရှိရင် အခု ကယ်ချိန် ယူချိန်ကလေး ရသေးတယ်၊ ကျန်တာကတော့ အချိန်ကလေးပဲကျန်တော့တယ်၊ အဲဒီအချိန်လွန်သွားလို့ ကယ်မည့် ယူမည့်မဂ်ကလေး သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ရှုဆိုတာကလေး မပေါ်လာတော့ပါဘူးဆိုရင်ဖြင့် အဲဒါ ခေါင်းအုံးပေါ်မှာ မျက်ရည်ကျပြီး သေမယ်လို့စိတ်ကူးပေတော့။

ခေါင်းအုံးပေါ် မျက်ရည်ကျပြီး သေတဲ့ပုဂ္ဂိုလ် မှန်လို့ရှိရင် အများအားဖြင့် မြင်လို့ ဝမ်းနည်းဖြစ်တာ၊ စိတ်မချမ်းသာလို့ဖြစ်တာ၊ အကြောတွေ တောင်ဆွဲမြောက်ဆွဲလို့ရှိရင် ဒါဟာ ရုန်းကန်နေတာများပါလိမ့်မယ်၊ မသွားချင်လို့၊ သို့သော်လည်း နေရမယ်မဟုတ်ပါဘူး၊ အဲဒါမျိုးတွေကလည်း ခင်ဗျားတို့ လူမမာ သေခါနီးများ သွားကြည့်ရင် အမျိုးမျိုး အဖုံဖုံတွေ့ရပါလိမ့်မယ်။ ဒီလိုသစ္စာဆိုက်တဲ့တရားမျိုးကို မကြားဖူးဘူး၊ မသေခင် ဝိပဿနာရှုမှ သေခါနီးမှ နလုံးမသာယာမှု မပေါ်စေနဲ့ဆိုတာ မြတ်စွာဘုရားက စကားနှစ်လုံး မဟောဘူးလား၊ ရဟန္တာဖြစ်တော့ ကံက ကုန်သွားပါတယ်၊ တန်တော့ ရဟန္တာဖြစ်ပြီးတဲ့ နောက် ဘယ်ဘဝဆိုတာ လာသေးရဲ့လား၊ အဲ့ဒါ ကံကုန်သွားပြီပေါ့။

ဒါဖြင့် ဒကာ ဒကာမတို့ ဒီကံသည် ဘယ်အခါရှုမှာတုံးဆိုတော့ မျက်လုံးလေးဖွင့်တာလည်း စေတနာပါလို့ဖွင့်တာ၊

မျက်လုံးလေးမှိတ်တာကော စေတနာပါလို့မှိတ်တာပါ၊ အဲ့ဒီတော့ ဖွင့်ချင်တဲ့ စေတနာ၊ မှိတ်ချင်တဲ့ စေတနာ၊ ပြောချင်တဲ့ စေတနာ၊ ကွေးချင်တဲ့ စေတနာ၊ ဆန့်ချင်တဲ့ စေတနာ၊ အကုန်သာဖြစ်ပျက်ရှုပါ။

ဖြစ်ပျက်ရှုပြီး ၄င်းဖြစ်ပျက်တွေကို မုန်းအောင်လုပ်၊ ၄င်းဖြစ်ပျက်ကို ဆုံးအောင်လုပ်ရင် စေတနာဆုံးတာဘဲ၊ စေတနာဆုံးလို့ရှိရင် ကံ၊ စေတနာနဲ့ကံဟာ အတူတူဘဲနော်၊ စေတနာဟံ ဘိက္ခဝေ ကမ္မံ ဝဒါမိ ဆိုသောကြောင့် သူဆုံးတော့ ကံလည်းဆုံးတော့ အကျိုးပေးလဲ ဆုံးပါတယ်၊ အကျိုးပေးဆုံးတော့ သူနဲ့တွဲမည့်ကိလေသာကော ဆုံးပါတယ်၊ အပါယ်လေးပါး သွားစေတတ်တဲ့ ကိလေသာတွေ မဆုံးသေးဘူးလား အဲ့ဒါ ဝဋ်သုံးပါးကျွတ်တာပါ၊ ဝဋ်သုံးပါးကျွတ်သွားတာ နိဗ္ဗာန်ပါပဲ။ အဲ - ဝဋ်သုံးပါးမှာ ကံမှုတယ်ဗျား၊ အဲဒါဖြင့် နိဗ္ဗာန်ဆုံးအောင် လုပ်တာဖြင့် မဂ်ဉာဏ်ပါပဲ၊ ဒါဖြင့် ဘယ်စေတနာပေါ်လာလာ ဖြစ်ပျက်ရှုရမှာပါ၊ အဲ ခင်ဗျားတို့နားလည်ထားတာကတဲ့၊ ဒီစေတနာလေးက ပြန်ပြန်အောက်မေ့နော်၊ ဟောစေတနာပြန်ပေါ်အောင်လုပ်နေတယ်၊ ဒါ သမထကိုးဗျ၊ တဂါနုဿတိလေဗျာ။

မကောင်းဘူးလား၊ ကောင်းတယ်၊ ဟုတ်လား၊ အကောင်းစစ်လားလို့ မေးပြန်တော့ အကောင်းစစ်တော့ မဟုတ်ဘူးတဲ့၊ ဒီနောက် အမျိုးမျိုးဝဋ် ကမ္မဝဋ်၊ ကိလေသာဝဋ် လာဦးမှာ၊ အဲ့ဒါ သမထလမ်းဆုံးက ဖြဟ္မာပြည်လို့ပြောတာ ပေါ့၊ အဲ့ဒီတော့



တဂါနုဿတိလေး ခင်ဗျားတို့ သာမညဆရာ သမားနဲ့တွေ့ရင် ဒီလောက် တင်းတိမ်သွားမယ်၊ တင်းတိမ်ခဲ့သော် ဒီမှာဒီတစ်ခါ လှူသလို နောက်တစ်ခါအောက်မေ့ပြန် တော့ ဒီကံတွေဟာ ပြန်ပြန်ပေါ်မယ်၊ ပေါ်လို့ရှိရင်လည်း ခင်ဗျားတို့ ကမ္မ ဝိပါကသသ ဆိုတဲ့ အကျိုးပေးက ဆုံးပါ့မလား၊ မဆုံးခဲ့သည်ရှိသော် မဆုံးတာသည် သံသရာပါပဲ။

အဲ့ဒီတော့ သာသနာတွင်းတရားကို အစစ်ကိုဟောပါဆိုလို့ရှိရင်ဖြင့် ဒီစေတနာချုပ်တော့မှ ကိစ္စပြီးမယ်၊ နိဗ္ဗာန်ရောက်မယ်၊ နို့မို့ရင် မရောက်ပါဘူး၊ ဒါဖြင့် တဂါနုဿတိကသမထ၊ ကံဆုံးအောင် ကျင့်ရတဲ့အလုပ်ဟာ ဝိပဿနာပါ၊ ခြားနားပြီလား။ ဒါဖြင့် ဒကာ ဒကာမတွေ ဘာရှုရှု၊ ဝေဒနာရှုတဲ့ပုဂ္ဂိုလ်လည်း စေတနာပါသွားတာဘဲ၊ စိတ်ရှုတဲ့ပုဂ္ဂိုလ်ကော ပါသွားပါတယ်၊ အဲ့ဒီတော့ စေတနာဟာ ခင်ဗျားတို့ရှုနေတာဟူသရွေ့ ကံဖြတ်ချည်းမှတ်၊ သူ့ကို သီးသန့်ရှုမနေနဲ့တော့။

တစ်ခါတည်း စိတ်ရှုတဲ့ပုဂ္ဂိုလ်လဲ ဒီစေတနာပါသွားတာဘဲ၊ ဝေဒနာရှုတဲ့ပုဂ္ဂိုလ်ကော စေတနာပါသွားပါတယ်၊ အင်းရုပ်ရှုတဲ့ပုဂ္ဂိုလ်ကော စေတနာပါသွားပါတယ်၊အင်း စေတနာပါလျက်ချည်းဘဲလို့ မှတ်လိုက်စမ်းပါ၊ ဓမ္မာနုပဿနာရှုတဲ့ပုဂ္ဂိုလ်ကော စေတနာပါသွားပါတယ်၊ ပါတာချည်းဘဲတဲ့၊ ကြိုက်တာတစ်ခုရှု၊ စေတနာပါရောချုပ်တယ်လို့ချည်းမှတ်ရမယ်၊ ရှင်းပြီလား။

## အလယ်ဇောငါးချက်

(၂၉-၅-၆၁)

ယနေ့ ရှေ့ပိုင်းက ကိုယ်တွေ့ရမယ့်အရေးလေးကို ရှောင်တဲ့နည်းရော ၊ အမှန်တွေ့ရမယ့်ကိစ္စလည်းရှိတယ်၊ ရှောင်နိုင်တဲ့ကိစ္စလည်းရှိတယ်၊ ဒီခန္ဓာကြီးတွေဟာ သေရာဌာန သွားနေတယ်ဆိုတာ လူတိုင်းသိပါတယ်။ ကြီးပြီကွ သေတော့မှာပဲကွ၊ ကြီးပြီကွ သေတော့မှာပဲဆိုတာ သေရာဌာန သူသွားလို့ရောက်တာပေါ့ဗျာ၊ အဲဒါ ထင်ရှားပြီးနေတော့ အို မွေးတစ်နေ့ သေတစ်နေ့လို့ လူမိုက်ပြောတဲ့ စကားကို ဒီလိုနားမယောင်ကြပါနဲ့နော်၊ ဖျက်ပစ်ပါ။

ဒီလူမသေခင်၊ မသေခင်ဆိုတာက၊ လေလေးက ရှူလိုက် ရှိုက်လိုက်နေလို့ရှိရင်ဖြင့် မသေသေးဘူး။ နောက်ဆုံးစိတ် လေလေး ပြန်သွင်းပြီး နောက်တစ်ခါပြန်ထုတ်လို့ သွင်းနိုင်တဲ့ စိတ်မလာရင် သေတာပဲ။ လေလေးထုတ်လိုက်တယ်၊ ပြန်သွင်းနိုင်တဲ့စိတ်၊ အတွင်းကရှိုက်လိုက်နိုင်တဲ့စိတ် မရှိတော့ဘူး၊ ဒါဖြင့် ကျုပ်တို့ ၏ ခန္ဓာကိုယ်ဟာ ဒီနှစ်ခုမှာ တစ်ခုခုပြတ်ရင် သေတယ်ခေါ်ရမှာပဲ၊ သေတယ်ခေါ်ရမယ်လို့ဆိုတော့ ဒီနှစ်ခု



ကြားမှာ ဖြန်းခနဲ ဆေးသမားတွေနဲ့ ကုသပြီး ဝေဒနာရှင်ဖြစ်နေတဲ့အချိန်မှာ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက မှာရှာတယ်၊ ဒီအတိုင်းမျှား မင်းတို့ကွာ သူ့ဟာသူချုပ်ပြီး၊ သူ့ဟာသူပျက်ပြီး သေသွားလိမ့်မယ်လို့ ဒီလိုမထင်ပါနဲ့ဦးကွာ။

မင်းတို့သွားရမည့်လမ်းခရီး မမြင်ဘဲနဲ့မသေပါဘူး၊ သွားရမည့်လမ်းခရီးကို မမြင်ဘဲနဲ့ မည်သူတစ်ဦးတစ်ယောက်မှ မသေပါဘူးတဲ့။ မည်သူတစ်ဦးတစ်ယောက်မှ မသေဘူးဆိုတော့ မှတ်ရမှာက၊ ဩော် ဒို့ဟာ သေမယ့်ပုဂ္ဂိုလ်တွေလည်းဟုတ်တယ်၊ သေခါနီးပေါ်လာမည့်စိတ်တွေကလည်း သွားရာလမ်းခရီးမြင်ဦးမှာတဲ့၊ မြင်ဦးမှာပဲဆိုတော့ ဒီအမြင်သည် ဘယ်သူ့အမြင်နဲ့ မြင်ရတာတုံးမေးတော့ သေခါနီးပေါ်လာတဲ့ မရဏာသန္နဇောစိတ်၏ အမြင်နဲ့မြင်ရတာ။ ဇောစိတ်နော်၊ ဇောစိတ်ငါးစိတ်က မြင်ရတာပါ၊ သေခါနီးမှ ဒီငါးစိတ်လာတာ၊ သေမည့်စိတ် (၅)စိတ်နော်။

သေခါနီးမှသေရာကိုမြင်တဲ့စိတ်(၅)စိတ်ပေါ်ပြီးမှ နောက်စုတိစိတ်ဆိုတာလာတာ၊ ဒါ မရဏာသန္နဇောစိတ်(၅) စိတ်၊ ဒါအရင်ပေါ်လိမ့်ဦးမယ်၊ ဒါအရင်ပေါ်ပြီးတော့မှစုတိဆိုပြီးဒီက ဒီဘဝနောက်ဆုံးစိတ်စိတ်ဖြစ်တာ။ ဒါက သေခါနီးဇော (၅)ကြိမ်၊ ရှင်းကြပလား။

### သေခါနီးဇော (၅)ကြိမ်

သေခါနီးဇော (၅)ကြိမ်ပြီးတော့မှ စုတိစိတ်၊ ဒါ ဒီဘဝလမ်းဆုံးပြီ၊ ဒီဘဝအတွက်တော့ ဒါ နောက်ဆုံးပိတ်စိတ်ပဲ၊ မရှိ

တော့ဘူး၊ ဒီစိတ်ပြီး နောက်စိတ် ဒီခန္ဓာထဲမှာ မလာတော့ဘူး၊ နောက် ပဋိသန္ဓေသာနေတော့မယ်၊ ကဲ ဒါဖြင့် နောက်ဆုံးပိတ် စိတ်ပဲ။

"စုတိစဝနတာ ခန္ဓာနံ ဘေဒေါ အန္တရဓါနံ ပဏ္ဍိမာနံ ကာလံကိရိယာ ခန္ဓာနံဘေဒေါကဠေဝရဿ နိက္ခေပေါ" လို့ လာတဲ့ဥစ္စာ ဒီစိတ်ပြီးလို့ရှိရင် ခန္ဓာကိုယ်ကြီး သုသာန်သာ ပို့ဖို့ စိတ်ကူးကြပေတော့၊ ဒီစိတ်ပြီးရင် ခန္ဓာကိုယ် သုသာန် ပို့ဖို့ပဲ။ ဒါဖြင့် မသေခင်လာတဲ့ ဇော (၅)စိတ်ဆိုတာ ဒါပါပဲ၊ အခု လိုခင်ဗျားတို့ သားနဲ့၊ သမီးနဲ့နေတဲ့စိတ်တွေပေါ့ဗျာ၊ ရောင်းတဲ့ စိတ်၊ ဝယ်တဲ့စိတ်၊ ဒါတွေနဲ့ နေကြတာပဲတဲ့၊ သို့သော် သေခါနီး ကျတော့ ဇော (၅)ကြိမ်လာမှာပါ၊ ရှင်းပြီနော်။

ဒီဇောဟာ ကုသိုလ်ဇောလည်းဖြစ်နိုင်တယ်၊ အကုသိုလ် ဇောလည်း ဖြစ်နိုင်ပါတယ်၊ သူက နှစ်မျိုးပါ၊ သေသေချာချာ နားထောင်ပါတဲ့၊ ဘယ်သူမှ မလာမရှိဘူးနော်၊ ကောင်းပြီ ဒါဖြင့် ဒီဇော (၅)ကြိမ်က ဒီစိတ်တွေပဲ၊ စိတ်ငါးကြိမ်က တစ်ခု ချုပ်ပြီး တစ်ခုဖြစ်တာပဲ၊ တစ်ခုချုပ်ပြီး တစ်ခုဖြစ်တာပဲ၊ ဒီ တစ်ခုချုပ်ပြီးလို့ ဒီတစ်ခုဖြစ်တာ၊ ဒီတစ်ခုချုပ်ပြီးမှ ဒီတစ်ခုဖြစ် တာ၊ သူပြီးတော့မှ စုတိစိတ်ဖြစ်တာ၊ ဒါသဘောတူလို့သာ (၅) ခုလို့ပြောလိုက်တယ်၊ တစ်ခုချုပ်ပြီးမှ တစ်ခုဖြစ်တာလို့ မှတ်ထားပါ။

ဒီဇော (၅) ကြိမ်က အကုသိုလ်လုပ်ထားပြန်လို့ရှိရင် လည်း၊ လိမ်လည်ကောက်ကျစ်ထားလို့ရှိရင်လည်း လိမ်လည်



ကောက်ကျစ်တာလေးက ဒီအချိန်မှာ လာမြင်တာ၊ လိမ်လည် ကောက်ကျစ်ထားတဲ့ဥစ္စာ ဘယ်သူ့လိမ်ထားတာတွေ၊ အဲဒီ အမှုအရာလေးတွေပေါ့ဗျာ၊ ပြောပုံဆိုပုံလေးတွေ၊ အဲဒါတွေ လာတယ်နော်၊ ရှေးက ဘယ်တော့မှမပေါ်ဘူးတဲ့၊ သေခါနီး ခု နင်က လိမ်လည်ကောက်ကျစ်တာ ဒီဇောက သွားမြင်တာ။

ဒီဇောက လိမ်လည်ကောက်ကျစ်ထားတဲ့ ပုဂ္ဂိုလ်ကျ တော့ ကိုယ်နဲ့လိမ်လည်ပုံ၊ လှည့်ပြီးစကားပြောပုံတွေဟာ အကုန်ပေါ်လာတယ် အဲဒါတွေသွားပြီး သတိရတယ်၊ ဒီစိတ် က၊ အဲဒါ ကံအမှုအရာတွေမြင်တာပဲ၊ အကုသိုလ်ကံတွေသွား မြင်တာလို့မှတ်ပါ။ ဒါကုသိုလ်ဇောဖြစ်ခဲ့လို့ရှိရင်လည်း လှူ ဒါန်းပေးကမ်းလို့ရှိရင်လည်း လှူဒါန်းပေးကမ်းတဲ့ သင်္ကန်းတွေ ကပ်နေတဲ့ပုံ တွေ၊ မြင်ချင်မြင်လာလိမ့်မယ်၊ ဒါဖြင့် ဒီဇောဟာ ကုသိုလ်ဇောပါပဲကွာ။

တစ်ခါဝိပဿနာတွေ လုပ်ထားတဲ့ ပုဂ္ဂိုလ်တွေကျတော့ လည်း ဝိပဿနာက ဥပမာ - သောတာပန်၊ သောတာပန်မှ မဆိုက်သေးဘူး၊ ဖြစ်ပျက်မြင်တဲ့ အခြေအနေလေးလောက်ရှိ သေးတဲ့ ပုဂ္ဂိုလ်ကျတော့လည်း၊ အင်းသူ့ဖြစ်ပျက်ကလေးတွေ ပဲမြင်လာတယ်၊ ဖြစ်ပျက်ဆိုတဲ့ ကံတွေမြင်လာတယ်။

သူ့အလုပ်များရာ သူမြင်တယ်၊ ဩော် အသေဆိုတာ သည် ကိုယ်လုပ်ထားတာ ကိုယ်မြင်ပြီး သေရတာကို ဆိုတာ ပေါ်လာတယ်၊ ဒီတိုင်း တိတ်တိတ်ပုန်းသေလို့ ဖြစ်တာမဟုတ် ပါဘူး၊ တိတ်တိတ်ပုန်းသေလို့ မဖြစ်ဘူးနော်၊ မှတ်ကြ။

အဲဒါဖြင့် တချို့ကျတော့ ဒီကံတွေ တန်နိုးကြောင့်ပေါ့လေ၊ ဒီက အကုသိုလ်ကံတို့၏ တန်နိုးကြောင့် ခွေးနက်ကြီးတွေ၊ ငရဲအိုးကြီးတွေ၊ ငရဲထိန်းတွေမြင်လာတယ်၊ နဂို အကုသိုလ်တွေက လုပ်ထားတာကိုး၊ လောဘ၊ ဒေါသ၊ မောဟ အလုပ်တွေနဲ့ သားရေး၊ သမီးရေး ၊ စီးပွားရေးနဲ့ အချိန်ကုန်နေတော့လေ၊ ဘာတွေမြင်ကြပါလိမ့်၊ ခွေးနက်ကြီးတို့၊ ငရဲအိုးတို့၊ ငရဲထိန်းတို့ပေါ့ဗျာ၊ ဒါတွေမြင်လာတော့ မျက်ရည်တွေစီးကျလာတယ်။

မျက်ရည်တွေစီးကျတယ်၊ လန့်သွားတယ်၊ ကြောက် ပေါ့ပေါ့နေခဲ့မိတာများပေါ့၊ ပေါ့ပေါ့နေခဲ့မိတာဖြင့်များပြီ၊ မျက်ရည်စီးကျတယ်ဆိုကတည်းက ခန္ဓာမသေသေးဘူးဆိုတာသေချာတယ်။ မျည်ရည်ကြီးငယ်ကျရပါတယ်ဆိုတော့ ကြောက် ငါအနေမှားခဲ့လို့ အရောက်ဖြင့်မှားတော့မှာပဲဆိုတာ သူ့ဟာသူသိတယ်၊ အနေမှားခဲ့တဲ့အတွက် အရောက်မှားတော့မှာပဲဆိုတာ သူ့ဟာသူသိတယ်၊ သေမှဒီအကြောင်းကို သိနေရင်အပိုပဲ သေရင်ဒါတွေလာလိမ့်မယ်၊ မကောင်းလုပ်ထားတဲ့ ပုဂ္ဂိုလ်က မကောင်းတဲ့ခွေးနက်ကြီးတို့၊ ငရဲအိုး၊ ငရဲထိန်းတို့မြင်လာလိမ့်မယ်ဆိုတာ ခုကမှတ်ထားလိုက်ပါ။

ပြောနေတာက အခုအချိန်ပြင်ရင်ရသေးတယ်ဆိုတာ သတိပေးချင်လို့ပါ၊ ဘုရားကလည်း ဒီအတိုင်း ဟောထားတယ်နော်၊ ကိုင်း ဒါဖြင့် ကောင်းတဲ့နေရာကလည်း ကောင်းတဲ့နေရာ သုဂတိသွားမည့် ပုဂ္ဂိုလ်ကျတော့လည်း၊ နတ်သမီး



တွေ၊ ဗိမာန်တွေ၊ နတ်ရထားတွေ၊ ဒီဇော (၅)ကြိမ်က မြင်တာပဲ။ မကောင်းတဲ့ပုဂ္ဂိုလ်ကျတော့လည်း ဒီဇော (၅)ကြိမ်ကပဲ ငရဲအိုး၊ ငရဲထိန်းတွေမြင်တာပဲ၊ ဗြဟ္မာဘုံသွားမည့်ပုဂ္ဂိုလ်ဖြင့်လည်း အင်းတောင်ကြီးတွေ၊ ချောက်ကြီးတွေ ကြားကြီးတွေ မြင်တာပဲ၊ ဒီဇော (၅)ကြိမ်ကမြင်တာနော်။

ကောင်းပြီ၊ ဒါဖြင့် မသေခင်က ကိုယ်ရောက်မည့်နေရာ သိရပါတယ်၊ မသေသေးပါဘူး၊ မသေခင်က သိရတာ၊ အဲဒီတော့ ဒီအချိန်မှာ သိတော့ ဇော (၅) ကြိမ်ပြီးရင်စုတိဆိုတာ ဒီဘဝနောက်ဆုံးပိတ်စိတ်လို့ပြောတာပဲ၊ ပြင်ချိန်ရှိသေးရဲ့လား၊ ဒါဖြင့် ပြင်ချိန်သည် ဘယ်အချိန်ကပြင်ရမှာတုံးဆိုတော့ဖြင့် အခုက ပြင်ကြ၊ အခုက ပြင်ကြရမယ်ဆိုတာ သတိပေးလိုက်ပါတယ်။

ခုက မပြင်ရင်ဖြင့် ဒီနေရာကျမှ မျက်ရည်ကြီးငယ်ကျပြီး၊ ဒါ ယောက်ျားစိတ်ဆိုပါတော့၊ ယောက်ျားက ဝေဒနာဖြစ်နေတယ်၊ ဒီနားက သားမယားကလည်းရှိ၊ ဒီဘက်က သားသမီးတွေလည်းရှိတယ်၊ ဘာစားချင်တုံး သတိလေးထားပါ၊ ပြောပေမဲ့ သူကမကြားတော့ဘူး၊ ဟိုဟာသာမြင်ပြီးလန့်နေတာ၊ ခွေးနက်ကြီးတွေ၊ ငရဲအိုး၊ ငရဲထိန်းတွေမြင်ပြီးသူလန့်သွားတာပဲ၊ ဒီကဘာပြောပြော မကြားတော့ဘူး၊ အဲဒါကို ခင်ဗျားတို့က နားဆွံ့သွားပြီလို့ ပြောကြတယ် မဟုတ်ပါဘူးတဲ့၊ ကဲ စုတိစိတ်နဲ့ ပြန်ချုပ်ထားတာ ကြားကိုမကြားတော့ဘူး ရှင်းပလား။

သူက ဟိုမှာ အာရုံကို ကြည့်ပြီးလန့်ပြီးနေတော့ ဘယ်သူ

အသံမှဂရုမစိုက်နိုင်ဘူး၊ ငါကိုယ်ကျိုးနည်းပြီလို့ဝမ်းနည်းနေတာ၊ သူ့ဟာသူမျက်ရည်တွေကျလာတာ၊ မျက်ရည်တွေမကျဘူးလား ကယ်ကြပါဦး၊ ယူကြပါဦး အော်နိုင်တဲ့ ပုဂ္ဂိုလ်ကျတော့ အော်လာတယ်။ ဒါဖြင့် ဒီစေ့ (၅) ကြိမ်သည် လှူတိုင်းလာရမယ်၊ အနား က ခင်ပွန်းထိုင်နေတယ် ကယ်နိုင်ရဲ့လား၊ ဒီက သားကြီး သမီးကြီးတွေကကော မကယ်နိုင်ပါဘူးနော်။

ဒါဘာ့ကြောင့် မကယ်နိုင်သတုံး၊ အေး သူ့မှာ ကယ်ချိန်ကုန်ပြီတဲ့၊ ဒီကြည့်လေ ဒီငါးခုပြီးတော့မှ ဘာလုပ်ရမှာတုံး၊ ဒီငါးခုကလည်း သိပ်ကြာတာမှ မဟုတ်ပဲ၊ (၁၊ ၂၊ ၃၊ ၄၊ ၅) ဆိုကုန်ပြီ၊ အဲတော့ ခင်ဗျားတို့ ဩော် ဒါဖြင့် မသေခင်က သိရတယ်ဆိုလို့ရှိရင်ဖြင့်၊ ဒို့ဟာ ကိုယ်ကျိုးနည်းတော့မယ်။

အခုလို စေ့စေ့က၊ ဒီငါးခုလာမှ မပြင်နဲ့တော့နော်၊ အခုလိုစေ့စေ့က ပြင်မယ့်ဆိုတော့ ဆုံးမသွန်သင်၊ တရားမေ့တွေပြောပြီးနေတာ စေ့စေ့ပြင်ပါပြောတာပဲ။

ဒါခင်ဗျားတို့က တွေ့မှတော့ ပြင်လို့မရတော့ဘူး၊ တွေ့မှ ပြင်လို့ရတာ ဝတ္ထုပေါင်းတစ်သိန်းမှ တစ်ခုလောက်တွေ့တယ်၊ ဘုန်းကြီးတို့ ဝိဋ္ဋကတ်သုံးပုံ မွှေနှောက်ပြီးရှာလိုက်တာ၊ ပြင်လို့ရတာ ဝတ္ထုပေါင်းတစ်သိန်းလောက်မှ တစ်ဝတ္ထုလောက်တွေ့တယ် အင်မတန်နည်းပါတယ်။

အဲတော့ သေဆိုတာ သွားရာလမ်းခရီးမြင်ပြီးမှ သေတယ်၊ ဩော် မကောင်းစိတ်တွေလာလို့ရှိရင်လည်း မကောင်းတာမြင်တာပဲ၊ မကောင်းစိတ်တွေလုပ်ထားရင်လည်း မကောင်း



တာမြင်တာပါ၊ သေခါနီးမကောင်းတဲ့စေ့ လာပါတယ်၊ အဲတော့ စဉ်းစားပြီး ကြည့်တော့မှ ဩော် ပြင်ချိန် ကောင်းတုန်းက ပြင်မှပဲ။ ဒါ အင်မတန် အကျိုးလိုလားတဲ့ဆရာသမားနဲ့လည်းတွေ့လို့ ခင်ဗျားတို့ကလည်း နားထောင်ချင်စိတ်ရှိလို့တော်သေးတာ နို့မဟုတ်ရင် ဒီဥစ္စာ ဒို့ပြင်ချိန်ရှိသေးတယ် ဆိုတော့ အခုချိန်မှာပြင်လိုက်ဦးမယ်ဆိုတဲ့ စိတ်ကလေး မွေးလို့ရသေးတယ်၊ ဒီနေရာကျတော့ မွေးလို့မရဘူး၊ ညီအစ်ကိုမောင်နမ သားချင်းတွေလည်းဘယ်သူကလာကယ်နိုင်ယူနိုင်သေးတုံး။

ဟော ဒီက မင်းအတွက် လှူတဲ့သင်္ကန်းလေးပြနေတောင် မမြင်တော့ဘူး၊ မင်း လှူထားတဲ့ဟာလေးတွ ပြန်နလုံးသွင်းပါလားလို့ ဘေးကသူတော်ကောင်းက သတိပေးလည်း သူကြောက်နေရလို့ ဒါတွေမကြားဘူး။ တစ်ခါတည်း မျက်ရည်တွေသာကျပြီး ဝမ်းနည်းနေတာပဲ ဝမ်းနည်းပြီးတစ်ခါတည်း စုတိစိတ်လာတာပဲ၊ စုတိစိတ်လာ ပြီးသည်နှင့် တစ်ပြိုင်နက်တည်း ဘယ်သူမှ မပို့ရဘူး၊ ဒီကံတွေ က ပို့ချလိုက်တာ၊ ဥပမာ - တိရစ္ဆာန်ဖြစ်မယ့် ပုဂ္ဂိုလ်ဖြင့် တိရစ္ဆာန်ဝမ်းထဲရောက်သွားတယ်၊ ငရဲကျမည့် ပုဂ္ဂိုလ်ဖြင့် ဒယ်အိုးထဲရောက်သွားတာ၊ အစစ်တောင်မခံရဘူး တချို့ကျတော့ ၊ ရှင်းပြီနော်၊ အဲတော့ ဒီအချိန်ကျမှ ပြင်လို့မရဘူးဆိုတာ သေချာပါတယ်၊ ဒါဖြင့် အခုအချိန်က ပြင်ကြရမယ်ဆိုတာ ကြပ်ကြပ်သတိထားပါ။

ခုအချိန်ကပြင်ရမယ်နော်၊အဲဒါကြောင့် ပြင်တော့ ဘုရားက ဈာယထ - ဝိပဿနာရှုကြဟော့၊ ဒါ ပြင်နည်းလေးပေးတာ၊

ဘယ်လိုပြင်နည်းပေးပါလိမ့် ဝိပဿနာရှုရမှာပါ၊ ရျာယထ ဘိက္ခဝေ မာပမာဒတ္ထ၊ ဘိက္ခဝေ = ရဟန်းတို့၊ ရျာယထ = ဝိပဿနာရှုကြ၊ ခန္ဓာကိုယ်ရှုပါကွ၊ မာပမာ ဒတ္ထ = မေ့လျော့ပြီးမနေနဲ့။ ဝိပဿနာရှုထားတဲ့ပုဂ္ဂိုလ်ကျတော့ သေခါနီးကျတော့ လည်း သူ့ဖြစ်ပျက်တွေပဲ မြင်လာတယ်၊ ဖြစ်ပျက်တွေမြင်တယ်ဆို ကတည်းက ခြော် အနိစ္စခန္ဓာပါလား၊ အနိစ္စခန္ဓာ ပါလားဆိုပြီး အနိစ္စဉာဏ်နဲ့သေသွားတယ်။

အနိစ္စဉာဏ်နဲ့သေသွားရင် သူ့သေခါနီး စုတိမရောက်ခင်လေးမှာ သူဟာ သောတာပန်၊ အကဒါဂါမ်၊ အနာဂါမ် လည်းဖြစ်နိုင်တယ်၊ နိဗ္ဗာန်ရောက်နိုင်တယ်၊ တစ်နည်း ဒီအတိုင်း အနိစ္စဒုက္ခမြင်ပြီးသေလို့ရှိရင် သုဂတိချက်ချင်း ရောက်သွားမယ်၊ စုတိပြီး သုဂတိရောက်မယ်။

သုဂတိရောက်လို့ နတ်သမီးရင်ခွင်ထဲမှာ ထိုင်ရက်ကလေးသွားပြီး ယောကျ်ားလေးဖြစ်စေ၊ မိန်းကလေးဖြစ်စေ၊ ခြော် ငါဘယ့်နယ့်ကြောင့် ဒီနေရာရောက်လာပါလိမ့်မတုံးလို့မတွေးဘဲနဲ့ ခြော် ဒီခန္ဓာကြီးဟာ အနိစ္စပါလား၊ ဒုက္ခပါလား အနတ္တပါလားဆို အဲဒီရင်ခွင်ထဲမှာ သွား သောတာပန်တည်တယ်။ ဒီက ဝိပဿနာသာ ရှုတဲ့ပုဂ္ဂိုလ် သူထင်တဲ့နိမိတ်ကလည်း နတ်ရွာပဲ၊ သူသည်ထင်တဲ့ အာရုံကကော နတ်ရွာ သုဂတိလာထင်တာပဲ၊ ဒါဖြင့် အထင်လည်းကောင်းတယ်၊ အရောက်ကော ကောင်းပါတယ်။

ဒါ ရျာယထ - ဝိပဿနာရှုထားလို့၊ ဝိပဿနာရှုထားကြ



လို့၊ မာပမာဒတ္ထ = မေ့လျော့ပေါ့ဆ၍ မလုပ်ပါနင့်၊ ပစ္ဆာ = မင်းတို့သေခါနီးအခါကာလမှ ဒီငါးရလာ မှာပေါ့။

ဝိပ္ပဋိသာရိနော - ငါတော့ မှားခြင်းကြီးမှားပြီလို့ ဒီကျမှ မျက်ရည်ကြီးငယ် မကျနဲ့တဲ့၊ ဒီကျမှ ကျရင်အပိုပဲတဲ့၊ ဒီကျမှ ကျတော့ ဒီနားကကားက ပြင်လို့ရရဲ့လား၊ ဒီနားက စိန်တွေ ရွှေတွေ မြတွေကကော မရပါဘူး၊ ဘာကမှ အကူအညီ မပေးနိုင်ဘူးဆိုတာ သေချာနေပြီ။

ဒါဖြင့် သေခါနီးမှနလုံးမသာယာဖြစ်ရတာဟာ မကောင်းတော့ဘူး၊ တစ်ခါတည်း ဒီဥစ္စာကို ဒို့တော့ အစလောက်ကတည်းက ဝိပဿနာရှုထားတော့မယ်ဆိုလို့ရှိရင် ထင်တဲ့နိမိတ်ကလည်း ကောင်း၊ ပြုံးများနေလိုက်သေးတယ်၊ ဒီဖောနဲ့ ပြုံးလိုက်သေးတယ်၊ ဒီဖောက အဲ မဲ့လည်းမဲ့နိုင်၊ ပြုံးလည်းပြုံးနိုင်တဲ့ ဖောဖြစ်သောကြောင့် မမဲ့ချင်လို့ရှိရင် ဝိပဿနာရှုထား၊ ပြုံးချင်လို့ရှိရင်ပေါ့ဗျာ။

## (၁၇၉၂) ကြိမ်မှာသွားတယ်

ကဲ ဒါဖြင့် ဒီဥစ္စာ ဘုရားသည် အကြိမ်ပေါင်း (၁၇၉၂) ကြိမ်၊ (၄၅)နှစ် အချိန်မှာပြောတာ အကြိမ်ပေါင်း (၁၇၉၂) ကြိမ်တောင်မှာသွားတဲ့ဥစ္စာ လူတိုင်းအလုပ်မို့မှာတယ်၊ ဘယ်သူမှ မလွတ်နိုင်ဘူး။ ကျုပ်တို့က ဘုရားရှင်တောင်မှ ပါးစပ်က တဖွဖွပြောပြီး အကြိမ်ပေါင်း (၁၇၉၂) ကြိမ်တောင် တဖွဖွ ပြောနေတဲ့ ကိုယ်တော်ကြီးက အကျိုးစီးပွားမည်မျှလောက်

အလိုရှိတယ်ဆိုတာ ပြောနေဖို့မလိုတဲ့အတွက် ဒို့ဖြင့် ပြင်ထားတာအေးပါတယ် လုပ်ကြပါ၊ ပြင်ထားတာအေးပါတယ်လို့ ဆုံးဖြတ်ချက်ချပါ။ ပြင်ထားမယ်ဆိုတော့ ဝိပဿနာရှုထားရမယ်၊ ဝိပဿနာရှုထား၊ ခန္ဓာကိုယ်ရှုထားကြပါ၊ ဝိပဿနာရှုထားပါ လို့ဆိုတာ ဘုရားက အကြိမ်ပေါင်း (၁၇၉၂)ကြိမ် တိုက်တွန်းတာပါ။

အဲတော့ မြန်မြန်လုပ်၊ မြန်မြန်လုပ်ပါ၊ သာသနာတွင်းမှ ပေါ်တယ်လို့ ပြောခဲ့တယ်၊ နက်ဖန်သေတဲ့လူမှာ ဝိပဿနာ မလုပ်မိလို့ရှိရင် နက်ဖန်ကွယ်ပြီ သာသနာမကွယ်ဘူးလား၊ တစ်ခါမသေဘဲနဲ့ နေပြန်လည်းမလုပ်တဲ့ပုဂ္ဂိုလ်တွေမှာ ကွယ်နေပြန်တဲ့ သာသနာပအလုပ်ဆိုတော့ ဒါန၊ သီလ၊ သမထ အလုပ်တွေနဲ့ အချိန်ကုန်နေလို့ရှိရင် ကွယ်တယ်လို့ ဆိုနိုင်ပါတယ်လို့မှတ်။

ဒါဖြင့် ခင်ဗျားတို့က မွေးတာ သာသနာတွင်း၊ ဝမ်းထဲရောက်တာလည်း သာသနာတွင်း ဉာဏ်တွေရောက်ကြပါစေ မွေးတာကတော့ သာသနာတွင်းပါပဲတဲ့ အလုပ်က သာသနာပအလုပ်ကို လုပ်နေကြလို့ရှိရင် မတော်သေးတော့၊ သာသနာတွင်း အလုပ်ကြပ်ကြပ်လုပ်စမ်းပါ၊ ဟိုအလုပ်မလုပ်ရဘူးလို့ မဆိုပါဘူး။

ကိုင်း ဒါဖြင့် ဒီသေခါနီးဇော အခါကာလမှာ မျက်ရည်ကြီးငယ် မကျရအောင် ဝိပဿနာလုပ်ထားမှာပါ၊ ဝိပဿနာကို အာစိဏ္ဏကံဖြစ်အောင် လုပ်ထားပါ၊ ဝိပဿနာကို မပျက်



မကွက်နှလုံးသွင်းပါလို့ဆိုတာ သတိပေးတယ်။ ကဲ ဒါဖြင့် ဝိပဿနာလုပ်ထားပြီ၊ ဝိပဿနာလုပ်ထားလို့ ဝိပဿနာမှာ ခရီးပေါက်သွားတယ် ဆိုကြပါစို့၊ ဝိပဿနာခရီး ပေါက်သွားတဲ့ ပုဂ္ဂိုလ်ကျတော့ ဝိပဿနာဉာဏ်အဆုံးမှာ မဂ်ဉာဏ်လာပါတယ်။ အင်း တစ်မဂ်လောက်တော့ရတယ်၊ ဝိပဿနာဉာဏ်အဆုံးမှာ ခန္ဓာဆုံးတာမြင်ပြီး ခန္ဓာဘယ်တော့မှမလာဘူး၊ ဒုက္ခချုပ်တာ ဒါပဲ ဒါပဲလို့ ဆင်ခြင်နိုင်တဲ့ ပုဂ္ဂိုလ်ကျတော့ သောတာပန်တည်တာပဲ၊ သောတာပတ္တိမဂ်ရပြီး သောတာပန်တည်သွားတာပဲ။

အဲဒီလို ပုဂ္ဂိုလ်များကတော့ သူ့သေပုံလေးရှင်းပြမယ်နော်၊ သူ့သေပုံလေးကို ဘုရားက သူ့မဟာနာမ်မင်းကြီးဟောပုံကို ရှင်းပြမယ်၊ ပြန်စပ်သွားအောင်နော်၊ ကြပ်ကြပ်သတိထားနားထောင်ကြပါ ဒကာ ဒကာမတို့ ပြီးတော့မှ အလုပ်တရားစတာပေါ့တဲ့။ မဟာနာမ်မင်းကြီးက သူဟာသူ သောတာပန်တည်တော့တည်တယ်၊ သူဟာသူမသိဘဲဖြစ်နေတာ၊ အလုပ်လုပ်ထားလို့ ခရီးတော့ပေါက်နေပြီ၊ သူကမသိဘဲဖြစ်နေတာ၊ သူက မရှင်းမလင်းဖြစ်နေတယ်ဆိုကြပါစို့။

ဒါနဲ့ တစ်နေ့သဥ္စကျတော့ သူက ကျောင်းတော်တော့နေ့တိုင်းသွားတယ်၊ ဘုရားလည်းကြည်ညို၊ တရားလည်းကြည်ညို၊ သံဃာတွေလည်းကြည်ညို၊ တရားလည်း အားထုတ် ကျောင်းတော်ကပြန်လာ၊ ပြန်တော့ သူနေတဲ့ ကပိလဝတ် ပြည်ထဲရောက်လာတယ်၊ ရောက်တဲ့အခါကျတော့ သူက

ကျောင်းတော်ကပြန်တော့ ဆင်ရိုင်းတွေ၊ မြင်းရိုင်းတွေကလည်း မြို့ထဲကလွတ်လာတော့ သူရှောင်ရ၊ တိမ်းရရှိတာပေါ့လေ၊ နေရာထိုင်ခင်းတွေ၊ လူတွေ မြို့ကလည်း စည်လွန်းလို့ ရှောင်ရတိမ်းရတာ သိပ်များတယ်၊ သူ့ အသက်အန္တရာယ်ကြောင့်ပေါ့လေ။

အဲတော့ သူ့စိတ်ထဲ ဖျတ်ခနဲဝင်ပြီ၊ သြော် ကျောင်းတော်မှာတော့ ဘုရား၊ တရား၊ သံဃာ၊ ဘယ်တော့မှ မမေ့ဘူး၊ အလုပ်တရားတွေလည်း မမေ့ဘူး၊ အခုမြို့ထဲလာတဲ့ဥစ္စာ ကျောင်းကပြန်လာပြီး မြို့ထဲမှာဆိုတော့ ဟိုရှောင်ရ ဒီတိမ်းရနဲ့ ဆိုတော့ သတိဟာလွတ်မနေဘူးလား၊ ဖြစ်ပျက်တွေ ညက်လွတ်နေတာ၊ ညက်နဲ့မရှုနိုင်ဘူးတဲ့ လွတ်နေတာ၊လွတ်မှာပဲ။

ရှောင်ရတာ၊ တိမ်းရတာကို၊ လူတွေရှောင်ရ၊ မူးတဲ့လူ ရှောင်ရ၊ အဲတော့ သတိက တပည့်တော် လွတ်လွတ်သွားတယ်တဲ့၊ အဲဒီတော့ ဒီလိုအချိန်များမှာ ဥပမာ ဆင်နင်းလို့ သေသေ၊ မြင်းနဲ့တိုက်မိလို့သေသေ၊ ဒီအချိန်သာ သေသွားရင် ငါတော့ ခက်တော့မှာပဲလို့ သူ့စိတ်ထဲအောက်မေ့လာတယ်၊ မဟာနာမ် မင်းကြီးနော်။

မြို့ထဲမှာ သေသွားလို့ရှိရင်ဖြင့် အာရုံတွေက ကြမ်းတာနဲ့ သူ့စိတ်ထဲ ဝိပဿနာအလုပ်ကိုလည်း သတိလွတ်လွတ်နေတာနဲ့၊ ဒီအချိန်များ သေသွားရင်တော့ အခက်ကြီးပဲလို့ သူဟာ သူ ဆုံးဖြတ်ချက်ချတယ်၊ နောက်တစ်နေ့ သူအိမ်ပြန်ပြီးအိပ်တယ်၊ ဒီဟာကိုတွေးပြီး အိမ်ပြန်အိပ်တယ်၊ မနက်ကျတော့



ကျောင်းကို သွားပြန်တယ်၊ နေ့တိုင်းသွားတာကို သူက၊ နေ့တိုင်းသွားတော့ သူ ဘုရားနားမှာ အခွင့်ကြုံတာနဲ့ သူလျှောက်တယ်၊ အရှင်ဘုရားတဲ့ -တပည့်တော်သည် ကျောင်းမှာနေရင် ဘုရား၊ တရား၊ သံဃာ မမေ့ဘူး၊ တရားဆို တဲ့ ကိုယ့်အလုပ်ကိုယ်လည်းမမေ့ပါဘူးတဲ့၊ တပည့်တော်လုပ်နေပါတယ်တဲ့။

သို့သော်လည်း ကျောင်းတော်ကပြန်တဲ့အခါကျတော့ ဆင်ရိုင်း၊ မြင်းရိုင်း၊ တီးသံ၊ မှုတ်သံတွေ၊ ပြေးကြ၊ လွှားကြတာတွေ ကစားနေကြတာတွေ၊ ဒါတွေ တပည့်တော် ရှောင်တိမ်းပြီးတော့နေတဲ့အခါကျတော့ ခုနင်က တရားတွေ လွတ်နေတယ်ဘုရားတဲ့၊ အဲဒီအချိန်များ တပည့်တော်တစ်ခုခုနဲ့ တိုက်မိနိုက်မိလို့၊ သေသွားရင် တပည့်တော် အပါယ်များသွားဦးမှာလားလို့ မဟာဝဂ္ဂသံယုတ်မှာမေးတယ်၊ ဒီနိမိတ်တွေများ မဟုတ်တာတွေ ထင်လာဦးမှာလား ဒီလိုမေးတာပဲ။

အဲတော့ ခုနင်က ပြောခဲ့ပြီ၊ သူသောတာပန်တည်ပြီးသား ဒုက္ခချုပ်တဲ့ဆီမြင်ပြီးသား၊ သို့သော် သူဟာသူ၊ ဘုရားကလည်း သူသောတာပန်တည်တယ်လို့ မပြောဘူးကို၊ သူဟာသူလည်း မရိပ်မိဘူးပေါ့၊ အဲဒါနဲ့ သူ့စိတ်ထဲ သံသယရှိပြီးတော့ ဒီလိုများရှုပ်တဲ့အထဲမှာ ကယောင်ချောက်ချားနဲ့ သေပွဲများဝင်ရလို့ရှိရင် ငါတော့ မကောင်းသော သေခြင်းများ ဖြစ်ဦးမှာလားလို့ သူ့စိတ်ထဲအောက်မေ့တယ်။ ဒါနဲ့ ဘုရားသွားလျှောက်တယ်၊ သူကတော့ ဒုက္ခချုပ်တာ မြင်ပြီးသားနော်၊ ဒုက္ခသစ္စာမြင်တယ်ဆိုတော့ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာလည်း ပယ်ပြီးသားနော်။

အဲဒီတင်မှ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက မေးခွန်းမေးတော့ မဖွင့်ရင်မဖြစ်တော့ဘူးတဲ့၊ ဒါနဲ့ဒကာကြီး၊ မဟာနာမ်မင်းကြီး၊ ဒီလိုပါတဲ့ မြို့ထဲရှာထဲသွားတဲ့အခါ အာရုံတွေကများပြီး သတိကလွှတ်နေတယ်ဆိုတာ လွတ်မှာပဲတဲ့၊ အသက်အန္တရာယ်ကြောင့် ရှောင်ရတိမ်းရ၊ ဟိုဟာတွေကြည့်၊ ဒီဟာတွေကြည့်၊ ရှောင်ရတိမ်းရတော့ လွတ်မယ်၊ သို့သော် သင်ဟာ သေလို့ရှိရင်ဖြင့် မကောင်းသော သေခြင်းတော့ မသေတော့ပါဘူး၊ သင့်အရိုးတွေ အသားတွေကသာ မြေထဲရောက်မှာ၊ ကျီး၊ လင်းတတို့၏ အစာကိုလည်းဖြစ်တယ်၊ သင့်စိတ်ကတော့ အထက်သာဆန်တော့မယ်။

သူ့စိတ်ကတော့ သုဂတိနဲ့ နိဗ္ဗာန်ပဲသွားတော့မယ်၊ ဒါဒုက္ခချုပ်တာ မြင်ထားလို့ပြောတာ၊ အဲ ဒုက္ခချုပ်တော့ ကောင်းကောင်း ပိုင်ပိုင်နိုင်နိုင် မြင်ထားတယ်။

ကဲ ဒကာကြီးတို့၊ ကျုပ် ဥပမာတစ်ခုပြောလိုက်ဦးမယ်တဲ့ ရှင်းသထက်ရှင်းအောင်၊ အင်မတန် နက်တဲ့ မြစ်ကြီးထဲမှာ လှေပေါ်မှာ ထောပတ်အိုးတွေ၊ ဆီအိုးတွေ ထောပတ်အပြည့်နဲ့ တင်သွားတယ်၊ လှေမှောက်လို့ တနည်းအားဖြင့် ပျက်စီးတယ်၊ လှေပေါ်မှာ ဟိုဟာ၊ ဒီဟာတွေနဲ့ ရိုက်ပြီး၊ လှိုင်းတွေ၊ လေတွေခတ်ပြီး အိုးချင်းတိုက်ပြီးပျက်စီးတယ် ဆိုပါတော့၊ လှေပါမှောက်သွားတယ်လို့ဆိုပါတော့၊ လှေပါမှောက်သွားလည်း အိုးခြမ်းပဲ့တွေကသာ မြုပ်မှာပဲ၊ ဆီတို့ ထောပတ်တို့က ရေပေါ်ပြန်တက်လာမှာပဲ။



အိုးခြမ်းပဲ့တွေကသာ မြုပ်ပါတယ်၊ ဆီတို့ ထောပတ်တို့က ပေါ်ပါတယ်၊ ရေပေါ်ပြန်တက်မှာပဲဆိုတော့ မြုပ်လမ်းမျောလမ်းမဟုတ်တော့ဘူးပြောတာ သူ "ရာယထ" လုပ်ထားလို့ဆိုရင် သိပ်အားရှိစရာကောင်းပါလား။ မြုပ်လမ်းမျောလမ်း မရှိပါဘူး၊ အဲတော့ မြုပ်လမ်းမျော လမ်း မဟုတ်ဘူး၊ ထောပတ်အိုး၊ ဆီအိုးကွဲသလိုဖြစ်ပါလိမ့်မယ်၊ အသား အရိုးသာမြေထဲကျမယ်ကွ၊ မင်းဉာဏ်တို့က နိဗ္ဗာန်သွားမယ်ကွ၊ အထက်ဆန်လိမ့်မယ်ကွ၊ ဒါဟောနေတာ အဲဒါ သူဒုက္ခချုပ်တဲ့နေရာမြင်ပြီးသားပဲ။

ဒါဖြင့် ကျုပ်တို့လည်း ဘုန်းကြီးလည်းဆုံးမနေတယ်၊ ခင်ဗျားတို့ကိုလည်း နေ့တိုင်းလိုလို တိုက်တွန်းပြီးနေတော့ ပိုက်ဆံလည်းမကုန်ပါဘူး၊ ထိုင်ပြီးခန္ဓာကြည့်ရုံပါပဲ၊ ထိုင်ပြီးခန္ဓာသာကြည့်နေ၊ ယားလည်းဖြစ်ပျက်ရှု၊ နာလည်းဖြစ်ပျက်ရှုလိုက်၊ ခြောက် ဒါ အနိစ္စလေးတွေပါလား။

အင်း ထချင်တာလာပြန်လည်း ထချင်တဲ့စိတ်ကလေး၊ ခုမှပေါ်ပြီး ခုမှပျက်သွားတယ်၊ ထိုင်ချင်တဲ့စိတ်ကလေးလာလည်း ဒီစိတ်ကလေးဟာလည်း ဖြစ်ပျက်ပဲ၊ စားချင်တဲ့စိတ်ကလေးလာလည်း စားမှမစားရသေးပဲ စားချင်တာရှိသေးတာ စားချင်ပြီး ဖြစ်ပြီးပျက်သွားတာပဲလို့ သူရှိတဲ့နေရာ အနိစ္စလေးရှုရှုပေးလိုက်ပါ၊ ရှုပေးလိုက် ဝန်လေးစရာလား။ မလေးပါဘူးတဲ့၊ အဲဒီကဲ့သို့ ရှုပါများလာတဲ့အခါကျတော့ အနိစ္စနဲ့ရှုတဲ့ဉာဏ်နဲ့ဟာ ကိုက်ကိုက်သွားတော့တယ်၊ ဆိုင်းနဲ့စည်းဝါးကိုက်သလိုပေါ့၊ ကြာတော့သူဟာ ချက်ကျလာတယ်၊ ဒီမှာလည်း

ဖြစ်ပျက်နဲ့မင်္ဂနဲ့ဟာ ကိုက်ကိုက်သွားတယ်။

အဲ ဖြစ်ပျက်နဲ့မင်္ဂနဲ့ဟာ ကိုက်၊ ကိုက်ပြီး သွားကြလို့ရှိရင် ကိလေသာမှာ ကြားမနိုဘူး၊ ဒါက ဥပမာမယ် ခန္ဓာကိုယ်ထဲဖြစ်ပျက်ဆိုရင် ဒါကရှုတဲ့မင်္ဂသွားဖြစ်လို့ရှိရင် ဒီကြားထဲ ဘာမှ မဝင်တော့ပါဘူး။ ကြားမဝင်လို့ရှိရင်ဖြင့်တစ်ခဏနဲ့ပဲသောတာပန်တည်မှာကို ၊ တစ်ခဏနဲ့ ဒီမင်္ဂဟာ သောတာပတ္တိမင်္ဂဖြစ်ပါတယ်၊ ဖြစ်တော့ကို ဒီပုဂ္ဂိုလ်သေလို့ရှိရင်ကျွတ်တဲ့ ဘုရားက ထောပတ်အိုး၊ ဆီအိုး ကွဲသလိုပဲ အိုးခြမ်းပဲ့သာ ရေမြုပ်တော့မှာပေ့ါ၊ ထောပတ်နဲ့ ဆီတွေကတော့ အပေါ်တက်မှာပဲ။

ဒီမှာလည်း အသားအရိုးတွေကတော့ မြေထဲ ရေထဲမြုပ်မှာပဲတဲ့။ ဉာဏ်က နိဗ္ဗာန်ပဲ၊ ဉာဏ်ကအပေါ်တက်လာတယ်၊ ဒါဖြင့် ဩော် တပည့်တော်တို့ အပါယ်လေးပါးမြုပ်ရမှာတော့ ကြောက်တယ်ဘုရား၊ သံသရာထဲ မျောရမှာလည်း ကြောက်လိုက်တာ၊ ဒီလိုဖြစ်နေလို့ရှိရင်ဖြင့် ကြောက်နေရုံနဲ့တော့ မပြီးဘူး၊ ကြောက်နေရုံနဲ့ သံဝေဂတော့ရမယ်၊ လုပ်လိုက်လို့ရှိရင် ကြောက်တာလွတ်သွားမယ်၊ လုပ်လိုက်ရင်တော့ ကြောက်တာလွတ်သွားမှာပါ။ အခု မရလည်း ဒုတိယဘဝ သောတာပန်တည်မယ်ဆိုတော့ ဘာကြောက်စရာရှိသေးတုံး၊ သေတော့လည်း နတ်ပြည်နိမိတ်ပဲ ထင်မယ်ဆိုတော့ ကြောက်စရာမရှိပါဘူး၊ ဆီတွေက အပေါ် တက်လာတာ၊ နတ်နိမိတ်ဆိုတာ အပေါ်တက်လာတာ၊ ငရဲနိမိတ်ဆိုတာ အောက်ဆင်းသွားတာပဲ။



ဒါဖြင့် အသေဆိုးလည်း ပြပြီး၊ အသေကောင်းလည်း ပြတဲ့နေ့ပဲဆိုရင်တော့ မလွဲပါဘူး၊ အသေဆိုးကော ပြပါတယ်၊ ပြပြီးပြီ ခုနင်က စော (၅) ကြိမ်နဲ့ပြတာ အသေဆိုးပြတာ၊ အသေကောင်းပြလိုက်တာက အခု မဟာနာမ်မင်းကြီးပြလိုက်တာပါ။ အဲဒီတော့ကို ခင်ဗျားတို့ဟာ မင်္ဂရထိုက်တဲ့ပုဂ္ဂိုလ်လား၊ မရထိုက်တဲ့ပုဂ္ဂိုလ်လား ဘုန်းကြီးက သံသယမရှိပါဘူးတဲ့၊ လုပ်ကြည့်ပါ၊ လုပ်ကြည့်ရင် သိပါတယ်၊ သိတာပဲတဲ့၊ သာသနာတွင်းသားတွေဖြစ်ပြီး ဘုရားနဲ့ကြုံ၊ တရားနဲ့ကြုံ၊ သံဃာနဲ့ကြုံ၊ ဒီလို သစ္စာတွေဟောတဲ့ဆရာသမားနဲ့ ကြုံဆို သစ္စာဟာ သာသနာတွင်းထောင်နိုင်တဲ့ နားရှိလို့ရှိရင် တိဟိတ်တွေ။

## မသေခင်က ဝိပဿနာရှု

ထောင်နိုင်တဲ့နားရှိရင် တိဟိတ်ပါ၊ အဲဒီလိုဖြစ်ပြီးနေတော့ ဩော် သေခါနီးမှ ကယ်ပါယူပါ လုပ်လို့လည်း မရဘူး၊ မသေခင်က "ဗျာယတ" ဆိုတဲ့ ဝိပဿနာရှုမှုပဲ၊ ယနေ့ ဒါ ဆုံးဖြတ်ချက်ချရမှာပဲ၊ ဒါဖြင့် ဝိပဿနာမရှုတဲ့ပုဂ္ဂိုလ်ကျတော့ ကိုတဲ့၊ အကုန်အမြုပ်ချည်းပဲသွားမယ်၊ အမြုပ်နဲ့ အမျောချည်းပဲ။

ရှုတဲ့ပုဂ္ဂိုလ်ကျတော့ အသားအရိုးသာ မြုပ်တဲ့ဘက်သွားတယ်နော်၊ ဉာဏ်နဲ့ စိတ်တွေက အထက်တက်သွားတယ်၊ ဒါဖြင့် လုပ်ထိုက်၊ မလုပ်ထိုက် ဒီလိုသိထားမှ လုပ်ချင်တဲ့စိတ်လည်းပေါ်တယ်၊ ဘာမှမသိရလို့ရှိရင်လည်း မလုပ်ဖြစ်ပါဘူး၊ အဲတော့ကို အခု ပေ့ါသလောက် တော်ကြာကျတော့ ကိုယ့်

သားနဲ့သမီးနဲ့ ပျော်စရာ၊ ပါးစရာ မော်တော်ကားနဲ့ အမျိုးမျိုး ပျော်နေမယ်ဆိုလို့ရှိရင် ဟိုအချိန်မှာ မျက်ရည်ကြီးငယ်ကျမယ်၊ သားက အနားထိုင်ပြီး မကယ်နိုင်၊ ခင်ပွန်းမက အနားနေပြီးကော မကယ်နိုင်ပါ၊ ဘယ်သူမှမကယ်နိုင်ပါလို့မှတ်ကြပါ။

ဘယ်သူမှ မကယ်နိုင်တဲ့အလုပ်ကိုလည်း ငါသည် ပျော်ပါးနေလို့ရှိရင် ဘယ်သူမှ မကယ်နိုင်တဲ့အလုပ် ငါလုပ်နေတာကိုလို့၊ ကိုယ့်ကိုယ်ကိုစွပ်စွဲပါ၊ အဲတော့ မသိတုန်းက အခုလိုဆရာသမားကောင်းမတွေ့တုန်းက မသိမလိမ်မာလို့ဖြစ်ခဲ့တာ၊ ဘုန်းကြီးတို့က ဘာမှအရေးမယူပါဘူး၊ သိတဲ့အချိန် ပြင်လိုက်ရင် ပြီးသွားတာပဲ။

သိတဲ့အချိန်မှာလည်း ခင်ဗျားတို့ ထူးထူးခြားခြားမှတ်ပါ၊ ခင်ဗျားတို့မှာ ပဋ္ဌာနစ္စရိယကံ မရှိဘူး၊ ပြင်လို့ရတဲ့ ပုဂ္ဂိုလ်ချည်းမှတ်၊ အမိသတ်တဲ့ကံရှိရင်တော့ ဘယ်လိုပြင်ပြင်မရဘူး၊ ဘယ်လိုနည်းပေးပေး မရဘူး၊ အဖသတ်တဲ့ကံရှိရင် မရပါဘူး၊ သံဃာအသင်းခွဲတဲ့ကံရှိရင်လဲ မရပါဘူး၊ အင်း ဘုရားသွေးစိမ်းတည်အောင်လုပ်ရင်လဲ မရပါဘူးတဲ့။ ပိတုဃာတက မာတုဃာတက (၅)ခုပေါ့လေ၊ ဒါသိပြီးသားတွေ ထားလိုက်ပါတော့၊ အဲဒါရှိရင်တော့ မရနိုင်ဘူး၊ နိယတ မိစ္ဆာဒိဋ္ဌိကျတော့ ယခုပြင်ပေးလိုက်ရင်၊ ဒီလိုရှုပေ့ ဆိုလို့ရှိရင် "ဟောဒါ အနိစ္စပဲလို့ဆိုရင်၊ နိယတ မိစ္ဆာဒိဋ္ဌိက ပယ်ပြီးသား ဖြစ်သွားတယ်၊ ဒါကြောင့် နိယတ မိစ္ဆာဒိဋ္ဌိက ကြောက် စရာမရှိပါဘူး၊ ပြင်ပေးမည့်လူရှိရင် ချက်ချင်းရတယ်။



အခု သေသေချာချာစဉ်းစားတော့၊ ဩော် ငါတို့ဟာ ပြင်ချိန်ရှိသေးတဲ့အထဲ ဒို့အပါအဝင်ပါလားဆိုတော့ ပေါ်လာတယ်၊ ပြင်ချိန်ရှိသေးတဲ့အထဲမှာ ဒို့အပါအဝင်ပဲလို့ဆိုတဲ့ဉစ္စာ သေချာပါတယ်၊ ဒါကြောင့် ပထမ ဒါ နှစ်ခုစပ်ဟောနေတယ်။ အသေဆိုးနဲ့ အသေကောင်းပြောနေတယ်၊ အသေဆိုးနဲ့ အသေကောင်းပြောပြနေတော့ ခန္ဓာကိုကြည့်လိုက်လို့ရှိရင်ဖြင့် ဒီနေရာ ယားတယ်၊ လက်မောင်းလေးမှာ ယားတယ်၊ ယား တာမရှိဘူး သိရင်တော်ပြီ၊ နာရင်ကော နာတာကိုသိပြီးတော့ နာတာသိကတည်းက အဖြစ်ကိုမြင်တယ်၊ နာတာမရှိတာသိကတည်းက အပျက်ကို မြင်နေတယ်၊ နာတာက ဖြစ်တာ၊ နာတာ ပျောက်သွားတာက ပျက်တာ၊ ယားတာက ဖြစ်တာ၊ ယားတာလေး ပျောက်သွားတာက ပျက်တာပါ၊ အဲတော့ ဒါဝေဒနာ ကွန္ဓာတွေ ပျက်နေတာ။

အဲဒီ အပျက်ကလေးတွေကို ခင်ဗျားတို့က မြင်လိုက်တော့ အပျက်မြင်တဲ့မဂ်၊ ဘယ်မှာတုံး တကျာလာသေးရဲ့လား၊ မလာနိုင်တော့ကို ဒီ ခဏလေးနဲ့ပဲ မဂ္ဂင် (၅)ပါးက မဂ္ဂင် (၈)ပါး ဖြစ်သွားပါလိမ့်မယ်။ မဂ္ဂင် (၈)ပါး ဖြစ်သွားတော့ ယားတာတွေ၊ နာတာတွေ၊ ကိုက်ခဲတာတွေ ၊ ဒါတွေသာ ဉာဏ်နဲ့သာ ဩော် အနိစ္စ၊ ဖြစ်ပြီး ပျက်တာပဲ၊ ဖြစ်ပြီးပျက်တာပဲလို့ ဒီဉာဏ်လေးနဲ့သာရှုနေပါ။

ရှုလိုက်တဲ့အခါကျတော့ ခင်ဗျားတို့စဉ်းစားကြည့်ပါတဲ့၊ ဝေဒနာပစ္စယာ တဏှာကို ဥပါဒါန်တို့ဆိုတဲ့ ခန္ဓာထဲမှာ ဒီစိတ်

စဉ်သုံးခု မတန်းတော့ပါဘူး၊ ကြားဝင်လာလို့၊ အဲတော့ ဒီနေ့ အထူးလေးပြောချင်တာက သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာ၊ သုခဆိုတာ ချမ်းသာတာ၊ ဒုက္ခဝေဒနာဆိုတာ ယားတာ နာတာ၊ ဥပေက္ခာဝေဒနာကတော့ အယားလည်း မဟုတ်ဘူး၊ အနာလည်းလည်း မဟုတ်ဘူး၊ ချမ်းသာလည်း မဟုတ်ဘူး၊ သူ စိတ်ကလေးတစ်မျိုးပေါ်တာပဲ၊ မြင်တာ မျှမတ္တ၊ ကြားကာမျှ မတ္တဖြစ်တာ၊ ဒါ ဥပေက္ခာဝေဒနာလို့ဆိုရင် မလွဲပါဘူး။

မလွဲတော့ကိုတဲ့ အင်း ဒါလေးကို ဒို့သည်ကားဆိုရင်ဖြင့် ခန္ဓာကိုယ်ထဲမှာလည်း ဒီသုံးခုဟာ အမြဲတမ်းမှတ်ထားကြပါ၊ တစ်ခုပေါ်လိုက်၊တစ်မျိုးမျိုးဟာ ရှိနေမှာပဲ။

တစ်မျိုးပြီး တစ်မျိုးဟာ ပေါ်နေတာပဲ၊ ဖြစ်လိုက် ပျက်လိုက်၊ ဖြစ်လိုက် ပျက်လိုက်၊ ဖြစ်လိုက် ပျက်လိုက်၊ သုခဝေဒနာကလည်း တစ်ခါတစ်လေ ဖြစ်ပျက်နဲ့ပြသွားတာပဲ၊ ဒုက္ခဝေဒနာကော ဖြစ်ပျက်နဲ့ပြသွားတာပါ၊ ဥပေက္ခာဝေဒနာကော ဖြစ်ပျက်နဲ့ပြပါတယ်၊ အဲ သူက ပြသလောက် ကျုပ်တို့က သတိထားပြီး ပညာလေးနဲ့ မဂ္ဂင်လေးနဲ့ ကြည့်ကြည့်ပေးလိုက်တာပေါ့။

သတိထားကြည့်ရမယ်နော်၊ သတိထားကြည့်မယ်ဆိုရင် သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ကြည့်ပေါ့လေ၊ သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ကြည့်နေတော့ ဒါလေးတွေဟာ ဉာဏ်ထဲမှာမြင်နေတာပဲ၊ ဒီဉာဏ်မြင်တာဟာ အမြင်မှန်လို့မှတ်ပါ။ ဘာ့ကြောင့် အမြင်မှန်လို့ဆိုရပါလိမ့်မတုံးဆိုတော့ အနိစ္စတွေ



ပါတယ်၊ အနိစ္စတွေ့တော့ ဒါဖြင့် ခန္ဓာထဲမှာ ဘယ် နေရာမှာပဲ ပေါ်ပေါ် အနိစ္စပဲပေါ် ပါတယ်၊ ဒါဖြင့် တစ်ကိုယ်လုံးဟာ အနိစ္စတွေစုနေတာပေါ့၊ ဟုတ်ဘူးလား၊ အနိစ္စတွေစုပြီး နေတော့ အနိစ္စကိုမြင်တဲ့ဉာဏ်ကိုတော့ဖြင့် ကျုပ်တို့ "ရာယထ" ဆိုတဲ့ အတိုင်း ခုနင်က အသေဆိုးဆိုးမှာစိုးတဲ့ အတွက် ဝိပဿနာရှုနေတာပဲ။

အသေဆိုးသေရမှာစိုးတာနဲ့ တစ်ခါတည်း ဝိပဿနာ လုပ်နေယ်ဆိုတာကို ရှင်းပလား၊ ဒါဖြင့် ဒါ အခု စောတုန်းမို့ ခင်ဗျားတို့ကလည်း နားထောင်နိုင်တာ၊ ကျောင်းမလာရင် ဒီနားလည်း မထောင်နိုင်တော့ပါဘူး၊ ခင်ဗျားတို့က ကျိုးမယ်၊ ပဲ့မယ် ဖျားနာနေကြမယ်၊ ဖြေနည်းကိုပေးမယ့်လူမရှိတော့ဘူး။

ကိုယ့်ဟာကို ရှုမယ်ဆိုတော့ တည့်ချင်မှလည်းတည့်မှာ၊ ပေါ်ချင်မှလည်း ပေါ်မယ်၊ ကဲ ဒါဖြင့် အင်း ချမ်းသာတာလေးလည်း ဖြစ်ပျက်ရှုပစ်ပါ၊ ဆင်းရဲတဲ့ဝေဒနာလေးပေါ်ရင် ဖြစ်ပျက်ရှုပစ်ပါ၊ အလတ်စားပေါ်ရင် ဖြစ်ပျက်ရှုရမှာပါ၊ ဖြစ်ပျက်ပဲရှု ဘာမှမရှုနဲ့၊ ဖြစ်ပြီးပျက်တာပဲ၊ ဖြစ်ပြီးပျက်တာပဲ၊ သူကပြောတာကို ခေါင်းညိတ်လိုက်၊ သူက ဖြစ်ပျက်ဆို ဟုတ်ပါပေတယ် လိုက်ရုံပဲ၊ သူက ဝေဒနာဖြစ်ပျက်ဆို ဟုတ်ပါပေတယ် လိုက်ရုံပဲ၊ မဂ်က ဟုတ်ပါပေတယ် လိုက်ရုံပဲ၊ မဂ်က ဟုတ်ပါပေတယ် လိုက်ရုံပဲ။

ဒုက္ခဝေဒနာဖြစ်ပျက်ဆိုရင်ကော မဂ်က ဟုတ်ပါပေတယ်

လိုက်ရုံပဲ၊ အဲဒီ ဟုတ်ပါပေတယ်ဆိုတဲ့ဉစ္စာ အမှန်မြင် တာပဲ၊ အမှန်မြင်တာဖြစ်ပြီး ဒါအမှန်သည် သမ္မာဒိဋ္ဌိ၊ သမ္မာက မှန်ကန်တာ၊ ဒိဋ္ဌိက မြင်တာ ဒါဖြင့် အမှန်မြင်တာ သမ္မာဒိဋ္ဌိလို့ ခေါ်ကြစို့။ ကဲ ဒါဖြင့် သမ္မာဒိဋ္ဌိက အဖော်လေးခုနှင့်တကွ ဖြစ်ရတာပါ။ ဒါဖြင့် မဂ္ဂင် (၅)ပါးရတယ်၊ ခင်ဗျားတို့ မသေခင်က မဂ်ရနေပြီ၊ မသေခင်က လောကီမဂ်ပုဂ္ဂိုလ်လည်းဖြစ်နေပြီ။

မသေခင်က လောကီမဂ်ပုဂ္ဂိုလ်ဖြစ်ပြီးနေတော့ ကဲ ခင်ဗျားတို့က ထောင်နိုင်တဲ့နားရှိတယ်၊ ကိုယ့်အရေးကိုလည်း ကိုယ်သိလာတဲ့အခါကျတော့၊ ဟာ ဒီဟာလေးတော့ ပြီး အောင်လုပ်ထားလိုက်မယ် ဆိုပြီး၊ ရှစ်ခုပြည့်အောင်လုပ် လိုက်လို့ရှိရင်ပြီးသွားတာပဲ။

ရှစ်ခုပြည့်အောင်လုပ် လိုက်လို့ရှိရင် ပြီးသွားတာပဲဆိုတော့၊ ဘယ်လိုရှုရမှာတုံး၊ အို ဝေဒနာက္ခန္ဓာ ကိုယ့်ခန္ဓာပြောတာ၊ ဒီခန္ဓာမှန်းပြီးလို့ရှိရင် ဒီခန္ဓာကြီးကို ဒုက္ခသစ္စာပဲ၊ ဖြစ်တာလည်း ဒုက္ခသစ္စာပဲ၊ ပျက်တာလည်း ဒုက္ခသစ္စာပဲလို့ ဒီကနေ ပိုင်ပိုင်နိုင်နိုင်သာသိနေ။ ချုပ်တော့ ဒီ သိနေတဲ့ မဂ္ဂင် (၅)ပါးလား၊ (၈)ပါးလား၊ (၈)ပါးပါ၊ သူ့ဆီမှာ ဒီသင်္ခါရတွေ မရှိပါဘူး၊ သင်္ခါရမရှိလို့ရှိရင် ဒီနေရာမှာ တစ်ခါတည်း ခင်ဗျားတို့ အင်မတန်တောင့်တနေတဲ့ နိဗ္ဗာန်ဟာ သူဖုံးနေတာ၊ နဂိုက ဒီဖြစ်ပျက်တွေ ဖုံးနေတာ၊ ဖြစ်ပျက်တွေအကုန် ဒုက္ခသစ္စာတွေ မင်းတို့မလိုချင်ဆိုတဲ့ ဒီမဂ်ဉာဏ်က လာလိုက်တော့ မဖုံးနိုင်ပါဘူးတဲ့။



မဖုံးနိုင်တော့ ဒီနေရာမှာ ခင်ဗျားတို့အင်မတန် တောင့်တနေတဲ့ နိဗ္ဗာန်ဟာ ပေါ်လာတယ်၊ ဒါဖြင့် နိဗ္ဗာန်ကို သင်္ခါရဖုံးနေတာပဲ၊ သင်္ခါရ ဆိုတာ ဖြစ်ပျက်ပါ၊ ဖြစ်ပျက်ဖုံးနေတာ၊ ရှင်းပလား၊ နိဗ္ဗာန်ဟာ ဖြစ်ပျက်ဖုံးနေပါတယ်လို့မှတ်ပါ။ ဒါဖြင့် ဒီဒုက္ခသစ္စာဖြစ်ပျက်၊ ဝေဒနာတို့၏ ဖြစ်ပျက် ဒုက္ခသစ္စာ ကို ကျုပ်တို့က ဒုက္ခသစ္စာ အစစ်ပါပဲ၊ မလိုချင်တော့ ပါဘူးလို့ ဒီလိုပဲ ဉာဏ်လာလို့ရှိရင်၊ မလိုချင်တဲ့အချိန်ဟာ ဒီသုံးခုလည်းချုပ်၊ တစ်ခုမှ မလာဘူး၊ ဖြစ်ပျက်ဟူသရွေ့ တစ်ခုမှ မလာပါဘူး၊ အကုန်ဆိတ်သုဉ်းသွားတယ်။

ဒါဖြင့် သင်္ခါရနယ်က လွန်ပါပြီ၊ ဒါ သင်္ခါရဆိုတာ ဖြစ်ပျက်ကို သင်္ခါရခေါ်တာ၊ သင်္ခါရနယ်က လွန်ပြီး ဒီဉာဏ်သည် အသင်္ခတနိဗ္ဗာန်ကို သွားတွေ့တယ်၊ သင်္ခါရနယ်ကလွန်ပြီး အသင်္ခတနယ်သွားတွေ့တယ်၊ ဒါဖြင့် ကျုပ်တို့ ဒီသင်္ခတကို မဆုံးဘဲနဲ့တော့ အသင်္ခတ ဖျတ်ခနဲမပေါ်နိုင်ဘူး၊ သူဖုံးထားတာပဲ။

## နိဗ္ဗာန်ဟာ အမြဲတမ်းရှိသလား

ဒါကြောင့် မိလိန္ဒမင်းကြီးက နိဗ္ဗာန်ဟာ ရှိသလား၊ မရှိဘူးလားလို့ မေးတဲ့အခါကျလို့ရှိရင် နိဗ္ဗာန်ဟာ အမြဲရှိသလား၊ နိဗ္ဗာန်ဟာ မရှိဘူးလားလို့ မိလိန္ဒမင်းကြီးက ရှင်နာဂသေန ရဟန္တာကို မေးတယ်၊ ဒကာကြီး တဲ့၊ အမြဲတမ်းရှိသလားလို့ ဒကာကြီးကလည်း မေးတယ်၊ အမြဲတမ်းမရှိဘူးလားလည်း

မေးတော့ ကျုပ်ဖြေရမှာပဲတဲ့၊ အမှန်ကို ဒီရဟန္တာက မြင်ပြီးသား ခုနင်က ဒုက္ခသစ္စာ၊ ဝိပဿနာရှုတဲ့ပုဂ္ဂိုလ် ဝိပဿနာအဆုံး လိုက်လို့ရတယ်၊ အဆုံးလိုက်တဲ့ပုဂ္ဂိုလ်မှာ ရှိတယ်၊ နဂိုကတော့ ရှိနေနှင့်တာမဟုတ်ဘူး၊ နဂိုကတော့ ရှိနေနှင့်တာမဟုတ်ဘူးတဲ့၊ လုပ်တဲ့ပုဂ္ဂိုလ်၏ ရှေ့မှာရှိတယ်၊ ရှင်းပလား။

ဒါဖြင့် မှတ်လိုက်၊ နိဗ္ဗာန်သည် လူတိုင်းနှင့် မဆက်ဆံပါဘူး၊ အားထုတ်တဲ့ ပုဂ္ဂိုလ်နဲ့တော့ ဆက်ဆံပါတယ်။ မေးတဲ့ပုဂ္ဂိုလ်မေးတာလည်း မဆိုးဘူးနော်၊ ဒို့ အတွက် မေးတာ၊ နိဗ္ဗာန်ဟာ အမြဲတမ်းရှိသလား၊ သို့မဟုတ် မရှိဘူးလား၊ အဲဒါ အရှင်ဘုရား ဖြေပါဆိုတော့၊ သူကဖြေတယ် ဒကာကြီးတဲ့ ဝိပဿနာဉာဏ်အစဉ်အတိုင်းတက်လာတဲ့ ပုဂ္ဂိုလ်ကျတော့ ရှိတယ်၊ ဝိပဿနာမလုပ်တဲ့ ပုဂ္ဂိုလ်ကျတော့ မရှိဘူးတဲ့ဆိုတော့ ဒီ့ထက်အဖြေတော့ ရှင်းဖို့ အဖြေမရှိတော့ ဘူး။

ဒါဖြင့် အားထုတ်တဲ့ပုဂ္ဂိုလ်မှာ အဆုံးရောက်အောင် အားထုတ်ရင် နိဗ္ဗာန်ရှိပါတယ်၊ အားမထုတ်တဲ့ပုဂ္ဂိုလ်မှာတော့ မရှိပါဘူး၊ နိဗ္ဗာန်ဆိုတာ ဒုက္ခခပ်သိမ်းငြိမ်းတာ ၊ (၁၅၀၀) ကိလေသာသိမ်းတာ၊ ဆင်းရဲဟူသရွေ့ ဘာမှမရှိတာ။ အဲ ဆင်းရဲဟူသရွေ့ ဘာမှမရှိတော့ နိဗ္ဗာန်လို့ဆိုသဖြင့် ဩော် နိဗ္ဗာန်သည် ငါတို့နေပုံထိုင်ပုံနဲ့ နိဗ္ဗာန်ဟာ ရှိသလား၊ မရှိဘူးလား ကိုယ့်ဟာကိုယ်စစ်ဆေးလိုက်တာပေါ့၊ ငါတို့အလုပ် လုပ်နေလို့ရှိရင်တော့ ငါတို့ အလုပ်ပြီးရင် နိဗ္ဗာန်တွေ့လိမ့်မယ်၊ ငါ အလုပ်မလုပ်တော့ပါဘူးဆိုရင်ဖြင့်ငါတို့အတွက်ဟာ နိဗ္ဗာန်မရှိဘူး။



ဘယ်လိုဆုတောင်း ဆုတောင်းမရှိပါဘူး၊ ဘယ်လိုဆုတောင်း ဆုတောင်းလေချာ၊ ဘယ်ရှိပါ့မလဲ၊ ဒီအလုပ်လုပ်မှ ဒါမှ ဒုက္ခသစ္စာ၊ ဒီ ဒုက္ခသစ္စာရအောင်လည်း ဖြစ်ပျက်က စခဲ့ရတယ်၊ ဖြစ်ပျက်ကစ၊ ဖြစ်ပျက်မှန်း၊ ဒါ ဒုက္ခသစ္စာလို့ ဆုံးဖြတ်ချက်ချမှ ဆုံး၊ မဆုံးဘူးလား၊ ဆုံးတော့မှနိဗ္ဗာန်ပေါ်လာပါ တယ်၊ ဒါဖြင့် ဒါမှ မတွေ့တဲ့ပုဂ္ဂိုလ် နိဗ္ဗာန်တွေ့လိမ့်မယ်လို့ဆိုတော့ မရပါဘူး၊ အဖုံးမှ မဖွင့်နိုင်ဘဲ နိဗ္ဗာန်တွေ့နိုင်ပါ့မလား။

သေချာမှတ်ပါ၊ ကဲ ဒါဖြင့် ဘယ်ပုဂ္ဂိုလ် နိဗ္ဗာန်ရမှာတုံး၊ နိဗ္ဗာန်သည်ကားလို့ရှိရင် ဘယ်လိုပုဂ္ဂိုလ်ရမှာတုံး၊ နိဗ္ဗာန်သည် အမြဲရှိသလား မရှိဘူးလားဆိုတော့ အားထုတ်တဲ့ ပုဂ္ဂိုလ်အတွက် ရှိပါတယ်၊ အားမထုတ်တဲ့ ပုဂ္ဂိုလ်အတွက် မရှိပါဘူးတဲ့၊ ဒါဖြင့် လူတိုင်းနဲ့မဆက်ဆံတဲ့တရားမှ လူထူးနဲ့ ဆက်ဆံမှာပါတဲ့။ လူထူးဆိုတာ အလုပ်လုပ်တဲ့ပုဂ္ဂိုလ် လူထူး၊ အလုပ်မလုပ်တဲ့ပုဂ္ဂိုလ်မှာ လူထူးမဟုတ်ပါဘူးနော်၊ ဒါဖြင့် သမ္မာပဋိပန္န၊ သမ္မာက ကောင်းစွာ၊ ပဋိပန္န ကျင့်တဲ့ပုဂ္ဂိုလ်မှာ တော့ နိဗ္ဗာန်ရှိတယ်ကွာ၊ မကျင့်တဲ့ပုဂ္ဂိုလ်မှာ မရှိပါဘူး၊ ဒါဖြင့် နိဗ္ဗာန်သည် ဘယ်နေရာမှာတုံးလို့ ခင်ဗျားတို့က မမေးနဲ့၊ ကိုယ်ကျင့်တဲ့ပုဂ္ဂိုလ်မှ နိဗ္ဗာန်တွေ့မှာ၊ သူ့အတွက်ပေါ်လာတာ။

အားမထုတ်တဲ့ပုဂ္ဂိုလ်အတွက်တော့မပေါ်ပါဘူး၊ လောကီဥပမာ ရှင်းအောင် ဒီထက်ရှင်းအောင် ပြောလိုက်ပါ့ မယ်။ စကြဝတေးမင်းကြီးဖြစ်တော့မယ်ဆိုလို့ရှိရင် စကြာရတနာဆိုတဲ့ရထား ကြီးဟာ တိုင်းပြည်တစ်ပြည်လုံးတင်ပြီး လေးကျွန်းလှည့်တဲ့ ရထား

ကြီးကစကြဝတေးမင်းဖြစ်မှသူဟာသူပေါ်လာတယ်၊စကြဝတေးမင်း မဖြစ်ခင် မရှိပါဘူး။

ဒါဖြင့် သူသည် စကြဝတေးဖြစ်အောင်လုပ်လို့သာလျှင် စကြာရတနာနဲ့တွေ့တာ၊ စကြဝတေးဖြစ်အောင် မလုပ်လို့ရှိရင်ဖြင့် စကြာရတနာနဲ့မတွေ့ပါဘူး၊ ခုနင်က ပတ္တမြားရတနာကြီးနဲ့ကော မတွေ့ပါဘူး။

ဆင်ရတနာ၊ မြင်းရတနာတွေနဲ့ကော မတွေ့ပါဘူး၊ ဘာဖြစ်လို့ မတွေ့တုံးဆိုတော့ စကြဝတေးမင်းဖြစ်အောင် မလုပ်လို့၊ ဒီမှာလည်း ခင်ဗျားတို့ ဝိပဿနာ အလုပ် လုပ်လို့ရှိရင်ဖြင့် ဒီ နိဗ္ဗာန်တွေ့လိမ့်မယ်၊ မလုပ်ဘဲနဲ့ တွေ့ချင်ပါတယ်ဆိုရင်တော့ မရပါဘူး၊ အော်မနေရဘူး၊ ဒါဖြင့် ဩော် ဒီနေ့ဟောတဲ့တရားဟာလည်း သိမ္မမှာ တော်တော်အရေးကြီးနေပါလား၊ အလုပ်မပါရင် မရတဲ့အလုပ်၊ မရတဲ့သဘောပါရဲ့လားဆိုတာ ပေါ်လာတယ်။

အဲတော့ ဒီအလုပ်မှ မလုပ်တော့ဘူးဆိုလို့လည်း ခုနက ပထမပြောတဲ့ဘက်၊ သူသွားတော့မယ်၊ သေခါနီးမျက်ရည်ကြီးငယ်ကျတဲ့ဘက်ကို သွားပါတယ်နော်၊ ဒါဖြင့် အဲဒါ အသာထားလိုက်၊ နိဗ္ဗာန် ရှိသလား မရှိဘူးလားမေးလို့ရှိရင် အားထုတ်တဲ့ပုဂ္ဂိုလ်အတွက်ရှိပါတယ်၊ ကျင့်တဲ့ပုဂ္ဂိုလ်အတွက်မှာရှိတယ်၊ မကျင့်တဲ့ပုဂ္ဂိုလ် မရှိပါဘူးလို့ဖြေပါ၊ လူတိုင်းနဲ့မဆက်ဆံပါဘူးဆိုတာ အလွန်ရှင်းနေပြီ။

ဩော် သူဟာနဲ့သူ စကြဝတေးမင်းလိုပဲကို၊ စကြဝတေးမင်း



အလုပ်ကို လုပ်တော့မှ စကြာရတနာပေါ်တယ်၊ စကြဝတေးမင်းဖြစ်ဖြစ်ချင်းတောင် ပေါ်သေးတာ မဟုတ်ဘူး။

စကြဝတေးမင်းစောင့်တဲ့ ဥပုသ်ကို စောင့်ရဦးမယ်၊ ပြီးတော့မှ သူ့မေတ္တာတွေ ပို့ရဦးမယ်၊ ပြီးတော့မှ အဝတ်ဖြူစင်ကြယ် ဝတ်ရဦးမယ်၊ ဝတ်ပြီးတော့မှ စကြဝတေးမင်းတို့၏မေတ္တာပို့တဲ့အချိန်ကျမှ စကြာက လာဆိုက်တာ၊ အကုန်လုပ်လို့ စကြာလာတာဆိုတာ ပေါ်ပလား၊ ဒါဖြင့် ခင်ဗျားတို့လည်းတဲ့ သောတာပန် စကြဝတေး၊ သကဒါဂါမ်စကြဝတေးဖြစ်ချင်လို့ရှိရင် စကြဝတေးမင်း အလုပ်လုပ်ပါ။ ဗျာယထ ပါပဲနော်၊ ဗျာယထဆိုတာ ဝိပဿနာရှုကြ၊ ဝိပဿနာရှုကြ၊ ကောင်းပြီ ဒီအလုပ်က အားထုတ်တဲ့ပုဂ္ဂိုလ် မှာ နိဗ္ဗာန်ပေါ်ပါတယ်၊ အားမထုတ်တဲ့ပုဂ္ဂိုလ် နိဗ္ဗာန်မပေါ်နိုင်ဘူးဆိုတာ အားမထုတ်တဲ့ပုဂ္ဂိုလ်မှာ ဒီက သမ္မာဒိဋ္ဌိက မလာပါဘူး။

သမ္မာဒိဋ္ဌိက ဝိဇ္ဇာပါ၊ သမ္မာဒိဋ္ဌိကလေ ဝိဇ္ဇာဆိုတော့၊ ဝိဇ္ဇာမရှိတဲ့ပုဂ္ဂိုလ်ကျတော့ အဝိဇ္ဇာက ဒီက လာပါတယ်၊ အဝိဇ္ဇာပစ္စယာ သင်္ခါရာ၊ သင်္ခါရပစ္စယာ ဝိညာဏံဆိုတော့ သူကအောက်သာစုန်သွားတယ်၊ အထက်ဆန်တက်သေးရဲ့လား၊ နိဗ္ဗာန်က အထက်မှာနေတယ်နော်။

အဝိဇ္ဇာဖြစ်တဲ့ပုဂ္ဂိုလ်က အောက်စုန်တယ်၊ ရှင်းကြပလား၊ အဲဒါဖြင့် အောက်မစုန်ချင်လို့ရှိရင်ဖြင့် ဒီထဲက သမ္မာဒိဋ္ဌိဝိဇ္ဇာနဲ့ ဒီအဝိဇ္ဇာတွေ ဖျက်ပစ်လိုက်ပါ၊ အဲဒီလိုကျတော့ ကောင်းစွာကျင့်တဲ့ပုဂ္ဂိုလ်ဟာဖြင့်တဲ့ ဒုက္ခအဆုံးမှ နိဗ္ဗာန်ရှိတယ်၊ ဒါဖြစ်ပျက်

တွေက ဒုက္ခသစ္စာ၊ ဒီဒုက္ခသစ္စာ အဆုံးမှာ နိဗ္ဗာန်ရှိတယ် ရှိတယ်ဆိုတော့ ဒုက္ခသစ္စာလည်း ဉာဏ်ထဲမှာ မလိုချင်လို့ဆုံးပါရော၊ နိရောဓသစ္စာ ဘွားခနဲပေါ် လာတယ်၊ တောင့်တယူလို့ မရပါဘူး၊ အဖွင့်ကောင်းလို့ ပေါ်လာတာပါ၊ အဲဒါကြောင့် သုံးချက်တည်း ဖွင့်ရင် ပြီးပါတယ်။

ဖြစ်ပျက်မြင်ရင် သုံးထပ်အုပ်ထားတဲ့အနက်က တစ် ထပ်ပွင့်၊ ဖြစ်ပျက်မုန်းရင် နှစ်ထပ်ပွင့်ပါတယ်၊ ဖြစ်ပျက်ကို ဒုက္ခသစ္စာ အစစ်လို့ ဆုံးဖြတ်ချက်ချနိုင်ရင် သုံးထပ်ပွင့်ပါတယ် သုံးထပ်ပွင့်တော့ ဒုက္ခသစ္စာဆုံးသွားတော့ နိရောဓသစ္စာပေါ် လာပါတယ်။ နိရောဓသစ္စာပေါ်လာဆိုတော့ ဈာယထအလုပ်လုပ်တော့ ဝိပဿနာရှုလိုက်တာ၊ ကဲ ဒီပုဂ္ဂိုလ်တွေကြတော့၊ မဂ်ဆိုက်ပြီဆိုကြစို့ အဆုံးကို ဒါမြင်ပြီးပြီ မြင်ပြီးနောက် မမြင်ချင်နေပေါ့ဗျာ၊ တစ်ခါမြင်ပြီးပြီ။

နောက်တော့ဖြင့် သားရေး၊ သမီးရေး၊ စီးပွားရေးနဲ့ပဲ ကုန်ပစေ၊ အဲဒီတင် ခုနင်က မဟာနာမ်မင်းကြီးက ဒါရပြီးသားဖြစ်နေတော့ ခုနင်က ပြောပြီးတဲ့အတိုင်း ကပိလဝတ်ပြည် ထဲသွားတယ်၊ သွားတော့ ဆင်တွေနဲ့တွေ့ မြင်းတွေနဲ့တွေ့ဆိုတော့ သူ ဖြစ်ပျက် နှလုံးမသွင်းနိုင်ဘူး၊ ဒုက္ခချုပ်တဲ့နိဗ္ဗာန်ရော မမြင်နိုင်ပါဘူး။

ကြောက်လန့်ပြီး ဒေါသမှ မပယ်သေးဘဲကြောက်တာပေါ့၊ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာပယ်ပြီးသား ဒေါသက အနာဂါမ်ကျမှ ပယ်မှာကိုး၊အဲတော့ မပယ်သေးလို့ ကြောက်ရတာ ရှင်းပြီနော်။



ကောင်းပြီ အဲဒီကဲ့သို့ဖြစ်နေတော့ မဟာနာမ်မင်းကြီးက အရှင်ဘုရား မြို့ထဲရွာထဲသွားတဲ့အခါ တပည့်တော် အင်မတန်မှ ကြောက်ပါတယ်၊ အင်မတန်မှ လန့်ပါတယ်၊ ဒီအချိန်မှာ သတိကလည်းလွတ်နေတော့ သတိလွတ်တုန်းသာ သေသွားမယ်ဆိုလို့ရှိရင် ဆင်နင်းလို့သေသေ၊ လှည်းကြိတ်လို့ သေသေ၊ ရန်သူတွေ သတ်လို့သေသေ မေ့နေတုန်းသေသွားမယ်ဆိုရင် တပည့်တော်ဟာ အသေဆိုးကြီးများ သေဦးမှာလား၊ ခုန နိမိတ်တွေများ မဟုတ်တာ ထင်ဦးမှာလား။

ဒကာကြီး ဒီလိုဒုက္ခသစ္စာကို မြင်ပြီးသားပုဂ္ဂိုလ်ဟာ အသေဆိုးမသေတော့ဘူး၊ အသားအရိုးဟာ မြေထဲသွားမယ်၊ စိတ်က နိဗ္ဗာန်အာရုံပြုမယ်၊ ရှင်းပလား။ အသားအရိုးသာ မြေထဲသွားမှာပါ၊ မြေထဲမြုပ်ရမှာတဲ့ စိတ်ကတော့ နိဗ္ဗာန်သာ အာရုံပြုတယ်၊ အထက်တက်သွားတယ်၊ ဆီအိုး ၊ ထောပတ် အိုး ရေထဲမှာ ကွဲသလို အိုးခြမ်းပဲ့သာ တဲ့ ရေထဲမြုပ်ပါတယ်၊ ဆီတို့၊ ထောပတ်တို့က ရေပေါ်ပေါ်နေ ပါတယ်။

ဒီမှာလည်း ဘာမှမပူပါနဲ့တဲ့၊ ဒီအတိုင်းပဲ ခင်ဗျားတို့ဖြစ်မြောက်အောင် လုပ်လို့ရှိရင် ဒီအတိုင်းတက်ပြီး အပါယ်လေးပါးဆိုတာ မြူမှ မသန်းတော့ဘူး။ ဒါဖြင့် ဒီနေ့ မှတ်စရာ သုံးခုထဲပဲ ပါတယ်နော်၊ အသေဆိုး သေတာတစ်မျိုး၊ အသေကောင်း သေတာတစ်မျိုး၊ နိဗ္ဗာန် ဘယ်သူဖုံးနေတယ်ဆိုတာ သိတာတစ်မျိုး၊ သင်္ခါရဖုံးနေတာ၊ နိဗ္ဗာန်သုံးချက်ဖုံးနေတယ်၊ ဝေဒနာရှိတဲ့ပုဂ္ဂိုလ် ဒေနာသုံးမျိုးဖုံးနေတယ်၊ စိတ်ရှိတဲ့ပုဂ္ဂိုလ်

မှာ စိတ်တွေဖုံးနေတယ်၊ ဒါတွေအကုန်ဖယ်လိုက်လို့ဒုက္ခသစ္စာတွေ မလိုချင်ဘူးဆိုလို့ရှိရင် နိဗ္ဗာန်ပေါ်လာတယ်၊ အဖုံးဖွင့်လိုက်တာကိုး။ အဖုံးဖွင့်လိုက် တော့ နိဗ္ဗာန်ဖုံးနေတဲ့ တရားပေါ်လာတယ်ဆိုတော့ နဂိုရှိနှင့် သလားဆိုတဲ့ သံသယဟာ ရှိမှာစိုးလို့ ခုနက အမေးပြန်ထည့်လိုက်တာ။

ဒါဖြင့် နိဗ္ဗာန်သည် အမြဲရှိသလား၊ မရှိဘူးလား မေးရင် အားထုတ်တဲ့ပုဂ္ဂိုလ်အတွက် ရှိပါတယ်၊ အားမထုတ်တဲ့ပုဂ္ဂိုလ် မရှိပါဘူးတဲ့။ ဒါဖြင့် အားမထုတ်တဲ့ပုဂ္ဂိုလ်အားလည်း မထုတ်ဘူး၊ သူက ဘုရားရှေ့သွားပြီး ပေးတော်မူပါလုပ်နေတာ၊ ပေးတော်မူပါ၊ ကမ်းတော်မူပါဆိုလို့ရှိရင် မရပါဘူးနော်၊ ဒါဖြင့် အားထုတ်ပြီးယူကြပါဆိုတာကို တိုက်တွန်းရင်း ဒီနေ့ တရားသိမ်းပါတယ်။

## ဇော (၇) ကြိမ် ပေးတဲ့အကျိုး

အားလုံး ဒကာ ဒကာမတွေကို ဝိပဿနာအလုပ်လုပ်ဖို့ရာ ဦးစွာပထမ တိုက်တွန်းတယ်။ ပစ္စုပ္ပန်သံသရာနှစ်ဖြာ အကျိုးကို များစေနိုင်တယ်လို့ မှတ်ရမယ်၊ အဲတော့ကို ဝိပဿနာတစ်ခါရှုလျှင် ဒီဘက်ကနေ ပြီး ကိုယ့်စိတ်ကလေးတစ်ခု ထားတာပေါ့၊ လောဘစိတ်ဖြစ် ဖြစ်၊ ဒေါသစိတ်ဖြစ်ဖြစ်၊ မောဟစိတ်ဖြစ်ဖြစ်၊ ဝိစိကိစ္ဆာစိတ် ဖြစ်ဖြစ်၊ ပြန့်လွင့်တဲ့စိတ်ဖြစ်ဖြစ် ထားတာပေါ့။

ဒါကလေးဟာ ဖြစ်ပြီးပျက်တာပဲလို့ ဆိုတာသည် မဂ္ဂင်က သိတာပဲ၊ မဂ္ဂင်က ပထမ တစ်နံ့ပါတ် တစ်ခါသိတယ်၊ သိပြီး တစ်နံ့ပါတ် စိတ်ကလေးချုပ်တာပဲ၊ နောက် နှစ်နံ့ပါတ်နဲ့ သိပြန်တယ်၊ ကောင်းပြီ၊ ဒါဖြင့် နောက် ခုနစ်နံ့ပါတ်နှင့် သိပြန်တယ်၊ ခုနစ်ခါသိတာပေါ့၊ ဖြစ်ပျက်ကို တစ်ခါရှုလိုက်လို့ရှိရင် သိတဲ့စိတ် ခုနစ်ကြိမ်ဖြစ်တယ်လို့ မှတ်ပါ၊ ဒါဖြင့် ကျုပ်တို့ ဘယ်စိတ်ရှုရှု ဇောခုနစ်ကြိမ် ဖြစ်တယ်။

ဘယ်အခါရှုရှု ခုနစ်ကြိမ်ဖြစ်တယ်ဆိုတာ မှတ်ထားပါ၊

ဒီညက်ဇောတစ်ခုတည်း မဂ္ဂင်ရှစ်ပါးကိုက မဂ္ဂင်ငါးပါးနဲ့ရှလဲ ဒီထဲလဲ မဂ္ဂင်ငါးပါးနဲ့တစ်ကြိမ်၊ ဒါလဲ မဂ္ဂင်ငါးပါးနဲ့တစ်ကြိမ်ပါ၊ ဘယ်နှစ်ကြိမ်ပါလိမ့်၊ အားလုံးခုနစ်ကြိမ်ဖြစ်တယ်လို့ မှတ်ပါ၊ မဂ္ဂင်ငါးပါးနဲ့ရှလဲ ခုနစ်ခါဖြစ်တယ်လို့မှတ်ရမယ်။

ကောင်းပြီ၊ ဒါဖြင့် ဩော် ဒို့ ဝိပဿနာရှုတဲ့အခါကျတော့ ဝိပဿနာမဂ်ဇောဟာ ခုနစ်ခါတောင် ဖြစ်ပါကလားလို့ ကိုယ့် စိတ်ထဲက မှတ်ထားရမယ်၊ တစ်ခါရှုရင် ခုနစ်ခါဖြစ်ပါတယ်၊ ဖြစ်ပျက်ကလေးကို မြင်တယ်ဆိုလို့ရှိရင်ဖြင့် ခုနစ်ခါဖြစ်တယ် အဲဒီတော့ ခုနစ်ခါဖြစ်တာကို ဩော် တို့တစ်ခါ အဖြစ်အပျက် ကလေး တစ်ခါရှုလိုက်ရင် ဇောခုနစ်ကြိမ်တောင်ဖြစ်တယ်ဆို တာမှတ်ပါ။ ဒါဖြင့် ဇောခုနစ်ကြိမ်ဖြစ်တော့ကို တပည့်တော် တပည့်တော်မတို့ ခုနစ်ခါသိတာပေါ့ဘုရား၊ ဖြစ်ပျက်ကို ခုနစ် ခါသိတာပေါ့လို့ဆိုတာ ဒကာ ဒကာမတွေက မှတ်ထား။

အဲဒါတွေ အကျိုးပေး ရှင်းပြဦးမယ်တဲ့၊ ပထမ ဒီစိတ် ကလေး ဒီထဲမှာလဲ မဂ္ဂင်ငါးပါး ပါတာပဲ၊ စေတနာလဲပါတာပဲ၊ မဂ္ဂင်ငါးပါးလဲပါတယ်၊ စေတနာတွေလဲ ပါတယ်၊ ဒီထဲမှာပါတဲ့ စေတနာက ဒီဘဝ အကျိုးပေးပဲ၊ ဒီဘဝ အကျိုးပေးရမယ်လို့ မှတ်ထားစမ်းပါ၊ ခုချိန်ကစပြီး ခုနစ်ရက်အတွင်း သို့မဟုတ်ရင် ခုနစ်လအတွင်း သို့မဟုတ်လို့ရှိရင် ခုနစ်နှစ်အတွင်း ဒီထဲပါတဲ့ မဂ္ဂင်က အကျိုးပေးမယ်၊ မဂ္ဂင်ဆိုသောကြောင့် ကောင်းကျိုး သာ ပေးလိမ့်မယ်။

ဒါဖြင့် ဒီအလုပ်သည် လျှင်လျှင်မြန်မြန် အကျိုးပေးတဲ့



အလုပ်ပေါ့ဗျာ၊ ဒါဖြင့် ဒိဋ္ဌဓမ္မ အကျိုးပေးတာ ပထမဇောပဲ၊ ဝိပဿနာရှုတဲ့ ပထမဇောဟာ ဒိဋ္ဌဓမ္မအကျိုးပေးတယ်၊ အဲ ဒိဋ္ဌဓမ္မဆိုတာ ယခုရှုတဲ့ အချိန်ကစပြီး ခုနစ်ရက်အတွင်း ဒီအကျိုးမပေးသေးလျှင် ခုနစ်လအတွင်း ဟာ ဒီခုနစ်လမှ အကျိုးမပေးသေးလျှင် ခုနစ်နှစ်အတွင်းပါပဲ။ အဲဒါ သုတ္တန်းရည် သတ္တိရှိတယ်၊ ပထမဇောထဲပါတဲ့ မဂ္ဂင် ၏ အကျိုးပေးပုံကို ကန့်သတ်လိုက်တဲ့ရက်ပါပဲ၊ ဒါကြောင့် ဒကာ ဒကာမတွေ ဖြစ်ပျက်ရှုပါ ရှုပါဆိုတဲ့ဥစ္စာ ဒီပထမဇော များများပေါ်အောင် လို့နိုင်းတာပဲ။

ဒါဖြင့် ဒီ ပထမဇောကို ဘယ့်နှယ်ကြောင့်ပေါ်စေချင်ပါ လိမ့် ဒီပထမဇောက ဝိပဿနာ ပထမဇောလဲဖြစ် ကုသိုလ် တကာ ကုသိုလ်ထဲမှာလည်း အမြတ်ဆုံး ပထမဇောလဲဖြစ် တယ်၊ ဒါနကုသိုလ်ပထမဇောထက်လဲ သူကမြတ်တယ်၊ သီလကုသိုလ်ပထမဇောထက်ကော သူကမြတ်ပါတယ်၊ သမထ ပထမဇောထက်ကော သူကမြတ်ပါတယ်တဲ့။ ကောင်းပြီ ဒါဖြင့် ဝိပဿနာပထမဇောကမြတ်တယ်လို့ ဆိုတာသိ တော့ အကျိုးပေးသူ အသာဆုံးပေါ့ဗျာ၊ ဒါဖြင့် ဝိပဿနာ ကြပ်ကြပ်ရှု ကြ၊ ကြပ်ကြပ်ရှုကြဆိုတော့ ဒီဇောဟာ အရင်ဆုံးပေါ် တဲ့ဇောပဲ ဖြစ်ပျက်အရင်ဆုံး မြင်တဲ့ဇောပဲ။

ဖြစ်ပျက်အရင်ဆုံး မြင်တဲ့ဇောဖြစ်လေသောကြောင့် သူ ချုပ်ပြီးမှ ဒုတိယဇောက မြင်တာကို၊ ဒုတိယဇောချုပ်ပြီးမှဖြစ် ပျက်ကို တတိယဇောက မြင်ပါတယ်၊ တတိယဇောချုပ်ပြီးမှ

စတုတ္ထဇောက မြင်တာ၊ အင်း စတုတ္ထဇောချုပ်ပြီးမှ ပဥ္စမဇောကမြင်တာကို။ ပဥ္စမဇောချုပ်ပြီးမှ ဆဋ္ဌမဇောက မြင်ပါတယ်၊ ဆဋ္ဌမဇောကဖြစ်ပျက်မြင်တာ ဆဋ္ဌမဇောချုပ်ပြီးမှ သတ္တမဇော မြင်ပါတယ်၊ သတ္တမဇောက မြင်တယ်ဆိုတော့ ကျုပ်တို့မှာ ဝိပဿနာရှုတဲ့ စိတ်ကုန်သွားတယ်။

အဲဒီတော့ကို အကျိုးပေးရာ ကာလဆိုတော့ ပထမဇောက အကြောင်းတိုက်ဆိုင်လို့ ကပ်တွေ၊ အန္တရာယ်တွေ၊ တွေ့မယ်ကျန်ဦးတော့ သူက အကျိုးပေးပြစ်လိုက်တယ်၊ သူက ပထမဇောက အကျိုးပေးနေတော့ ကောင်းကျိုးပေးနေတော့ ဟိုဟာတွေက မလာနိုင်တော့ဘူး။ ဒါဖြင့် ပထမဇောသည် ပစ္စုပ္ပန်အကြောင်းခြင်း တိုက် ဆိုင်လို့ ပေါ်လာမဲ့ ကပ်မျိုးကိုလဲ ပထမဇောက အကျိုးပေးလိုက်တဲ့အတွက် ကာကွယ်ရေးရတယ်၊ ဒါဖြင့် ပထမဇော လုပ်ထိုက်ပါတယ်၊ ပထမဇောကိုဖြင့် ကြိုးစားပြီး ဂရုစိုက်ပါ၊ ပထမဇောလာလို့ရှိရင်လဲ အလယ်ဇောငါးခုကော လာမှာပဲ၊ မလာပါနဲ့ဆိုလို့ ရရဲ့လား။

သို့သော်လဲ အလယ်ဇော ငါးခုကတော့ နောက်မှအကျိုးပေးမယ်၊ ဒီ သတ္တမဇောကတော့ ကံထိုက်တဲ့အတွက် ဒုတိယဘဝ အကျိုးပေးမယ်၊ အလယ်ဇော ငါးချက်ကတော့ တတိယဘဝမှစ၍ နိဗ္ဗာန်ရသည့် ဘဝတိုင်အောင် သူအကျိုးပေးမယ်။

ကိုင်း ပထမဇောကလဲ အနုဘဝ ဟောဒီ သတ္တမဇောက ဒုတိယဘဝ၊ ဒုတိယဘဝ အကျိုးပေးတယ်၊ အလယ်ဇောက တတိယကစ၍ နိဗ္ဗာန်မရမချင်း လှုသွားရာအရိပ်ပါသလို



လိုက်နေတယ်လို့မှတ်ပါ။ ဒါဖြင့် ဝိပဿနာ တစ်ခါရှုလိုက်တယ်ဆိုရင် ခုနစ်ကြိမ် ဖြစ်တော့ ကျေးဇူးမများတာရယ်လို့ ပါသေးလား၊ ဒီဘဝ အတွက်က ပထမဇော၊ နောက်ဘဝ အတွက်က ဒီသတ္တမ ဇော၊ နောက်ဒုတိယဘဝအတွက်၊ အလယ်ဇောငါးချက်က တတိယဘဝမှစ၍ နိဗ္ဗာန်ရသည့်တိုင်အောင် သူတို့အကျိုး ပေးမယ်။

ပထမဇောက ဒီဘဝအတွက် ရှင်းပြီနော်၊ သတ္တမဇောက နောက်ဘဝအတွက်ပါ ဒုတိယဘဝ ဒုတိယထည့်ပေးနောက်တွေက အရှည်ကြီးကိုသတ္တမဇောက ဒုတိယဘဝပါ အလယ်ဇောငါးချက်က တတိယ ဘဝမှစ၍ နိဗ္ဗာန်မရမချင်း အကျိုးပေးမယ်။ ဒါဖြင့် ယခုဘဝ အကျိုးပေးမယ့် ဇောက ပထမဇောပါ၊ ဒါဖြင့် ယခုအမျိုးမျိုးအဖုံဖုံ တုပ်ကွေးရောဂါတွေ ဖြစ်တယ်အစရှိသည် ပေါ့ဗျာ၊ ကပ်တွေက အမျိုးမျိုး၊ စစ်ဘေးစစ်အန္တရာယ်၊ သူခိုးဓားမြ ဘေးအမျိုးမျိုး အဖုံဖုံ မရှိကြဘူးလား၊ အဲဒါတွေကို အခုဘဝ ဇောခုနစ်ကြိမ်ထဲမှာ ဘယ်သူက ကာကွယ်ပေးလိမ့်မယ်ဆိုတာ ယနေ့ရှင်းပြမယ်။

ဒါဖြင့် ကျုပ်တို့ အခုလက်ငင်း ကျေးဇူးရှိမှာက ပထမဇောပါ၊ ဒါဖြင့် ပထမဇောလာရင်လဲ အလယ်ဇောငါးခုက တော့ လာမှာပဲ၊ သတ္တမ ဇောကလဲ လာမှာပဲဆိုသဖြင့် ဝိပဿနာ ရှုရင်လဲ၊ ဒီခုနစ်ကြိမ် မပေါ်ဘဲနဲ့ မနေပါဘူး။

ဒါဖြင့် ပထမဇောသည် ပုံစံချပြီး ဝေဖန်ပေးပါတယ်၊ ပုံစံချပြီး ဝေဖန်ပေးလိုက်တဲ့အတွက် ဒီဒကာ ဒကာမတွေမှာ အင်း

ဒီဝိပဿနာ ပထမဇော မပေါ်ပေါ်အောင် တို့ ကြိုးစားမှပဲရယ် လို့၊ ဖြစ်ပျက်မြင်ရင်လဲ သူကပေါ်တော့တာပဲ၊ ပေါ်လို့ရှိရင်လဲ သူ့ထဲမှာပါတဲ့ မဂ်တွေက အကျိုးပေးရင် ယခုဘဝကစ၍ နိဗ္ဗာန်မရမချင်းပါ၊ အဲ ယခုနေ့ကစ၍ ခုနစ်ရက်အတွင်း၊ ခုနစ် လအတွင်း၊ ခုနစ်နှစ်အတွင်း ဒါ သူ့သတ္တိဆိုတာ ပေါ်ပြီလား။

ဒါဖြင့် အမျိုးမျိုး အဖုံဖုံသော အန္တရာယ်တွေ ဘာတွေကို ယခုဘဝ ကာကွယ်ပေးမှာဖြင့် သူပဲ၊ ကပ်တွေ အန္တရာယ်တွေ ကြောက်လန့်စရာတွေ လာခဲ့လို့ ကြုံလို့ရှိရင် ဒကာ ဒကာမ တွေ ဆရာဘုန်းကြီးက လက်နက်ကောင်း ပေးထားတယ်၊ လက်နက်ကောင်းပေးထားတော့။ ဟောဒီပထမဇောက သာမည မဟုတ်ဘူးနော်၊ ဟုတ်လား၊ အလွန်ကို အကျိုးပေးထက်တယ် ဆိုတာ ဒါကြောင့် သူ့ ကို ဒိဋ္ဌဓမ္မဝေဒနီယကံလို့ခေါ်တယ်၊ ဒိဋ္ဌ ဓမ္မအကျိုးပေးတဲ့ ကံပဲ ဆိုတာ ပထမဇောကို ဆိုတာပဲ။

ဒါဖြင့် ဝိပဿနာရှုတိုင်း ရှုတိုင်း၊ ပထမဇောပါရဲ့လား၊ ပါတိုင်း ပါတိုင်း ကျုပ်တို့သည် ခုနစ်ရက်အတွင်း၊ ခုနစ်လ အတွင်း၊ ခုနစ်နှစ်အတွင်း သူ့အကျိုးပေးကို ကျုပ်တို့ကိုယ်ပိုင် ရလိမ့်မယ်ဆိုတာကတော့ဖြင့်အမှန်ပဲ။ ဒါဖြင့် သူသည်၊ ကျုပ်တို့ ဝိပဿနာ၏အန္တရာယ်တွေကိုလဲ ကာကွယ်ပေးမယ်၊ ကြောက်စရာ၊ လန့်စရာတွေ ပြောသံကြား ဆိုသံကြား အမျိုးမျိုး အဖုံဖုံတွေ ပေါ့ဗျာ၊ အဲဒါတွေကိုလည်း ပထမဇောမရှိတဲ့ပုဂ္ဂိုလ်မှာ ကုသိုလ် ဝိပဿနာ ပထမဇောမရှိတဲ့ပုဂ္ဂိုလ်မှာ မကာကွယ်နိုင်ဘူး၊ ဝင် လာမှာပဲ ဝိပဿနာ ပထမဇောရှိနေတဲ့ပုဂ္ဂိုလ်ကျတော့ မဝင်



လာနိုင်ပါ ဘူးနော်။

ဒါဖြင့် ဒီအလုပ်ကို ကြိုးစားလုပ်ရလိမ့်မယ်၊ အရင်ထက် ဝီရိယပိုပေးပါလို့ တိုက်တွန်းတာပါပဲ၊ ကောင်းပြီ၊ ဒါဖြင့် ဒီပထမဇောသည် ဒကာ ဒကာမတွေ၏ ကုသိုလ် ပထမဇော လဲဖြစ်နေသောကြောင့် ကိုးစားရာ၊ အားထားရာ အစစ်သည် ကုသိုလ် ပထမဇောပဲ၊ ဒီပြင် သတ္တမဇောတွေက ဒုတိယဘဝ မှာ ကိုးစားရာ၊ အားထားရာရမှာ အလယ်ဇောတွေက တတိယ ဘဝကစပြီးမှ သူကအကျိုးပေးမှာဖြစ်နေတော့ သူ့ကိုးစားလဲ တတိယဘဝကျမှ သူက အကူအညီပေးမှာကိုး။

ဒါဖြင့် ပထမဇော အရေးကြီးတယ်ဆိုတာ ပေါ်လာပြီ လား၊ ကိုင်း ဒီပထမဇောက ဘယ့်နှယ်ကြောင့် သူက ကပ်တွေ ဘာတွေကျော်အောင် ကျေးဇူးပြုနိုင်ပါလိမ့်၊ အင်း သူသည် သတ္တိထက်လို့ပဲ အဖြေအကြမ်း ပေးရမယ်။နောက်ဘဝတုန်း က ဒီလိုလဲ သာသနာတွင်း ကလည်း ကြုံခဲ့ပုံမရ၊ မရတော့ကို ကိုယ်ပြုထားတဲ့ အကုသိုလ်ကံတွေက ဒီအလယ်ဇောငါး ချက်၊ အကုသိုလ်ဇောငါးချက်၊ နောက်ဘဝများစွာကပေါ့ဗျာ၊ ဒါတွေ နောက်ကလိုက်မနေဘူးလား၊ လိုက်နေသောကြောင့် အပရာပရိယဆိုတဲ့ အလယ်ဇောငါးချက် ကံတွေက နောက် ကလိုက်နေတယ်၊ အကုသိုလ်ကံတွေ လိုက်နေတယ်။

လိုက်နေတဲ့အတွက် အခုအခါမှာ ဥပမာ - သူပုန်ထတာ တွေလဲ၊ အင်း တို့ ကြောက်ရတာပဲ၊ ဘာဖြစ်လို့ ကြောက်စရာ တွေ ခဏခဏ ပေါ်နေရပါလိမ့်မလဲဆိုတော့၊ အဲ့ သူ့ အကုသိုလ်ကံ၊

အပရာပရိယကံတွေက နောက်တုန်းက ပြုထားတဲ့ အကုသိုလ် အလယ်ဖောင်းချက်တွေက နောက်က လိုက်နေတယ်၊ အဲဒါ အကုသိုလ်လိုက်နေတယ်။ အဲဒီအကုသိုလ်တွေက လိုက်နေတော့၊ သူတို့က အကျိုးပေးမလို့ လိုက်နေတယ်၊ မင်းတို့ စီးပွားပျက်အောင်၊ လူသေအောင်၊ ရောဂါထူအောင်၊ ဘဝများစွာက ပြုထားတဲ့ အပရာပရိယတွေက လိုက်မနေပေဘူးလား၊ အဲဒါ ကျုပ်တို့ ဘာနဲ့တားရမှာတုံး၊ လိုက်တာသေချာတယ်၊ လိုက်တာ သေချာတော့။

ဘယ်လိုလိုက်တာ သေချာသတုံးလို့မေးတဲ့အခါကျတော့ ခင်ဗျားတို့၊ ကျုပ်တို့ အခု လေးငါးဆယ်နှစ် ဆယ့်ငါးနှစ် နေလာခဲ့ရတယ်၊ ဘယ်အခါကာလမှ ဒီကောင်းသတင်းရယ်လို့ မကြားခဲ့ရဘူး၊ သတ်သံတွေ၊ ဖြတ်သံတွေ၊ ခိုးသံတွေ၊ ဝှက်သံတွေ၊ တိုက်သံတွေ ဟုတ်လား၊ သေသံတွေဘဲ အမျိုးမျိုး အဖုံဖုံ ကပ်ကြီးက ဝိုင်းနေတယ်ဆိုတာ စစ်အတွင်းကလဲ ကပ်ကြီးဝိုင်းနေလို့၊ စစ်ပြီးတော့လဲ ကပ်အမျိုးမျိုး ဆိုက်နေလို့ ဆိုနိုင်ပါတယ်။

အဲဒါ ဘယ်ကံတွေက လိုက်လာလို့ ဒီ တို့မှာ ကြောက်ခြင်း၊ လန့်ခြင်းအလုပ်တွေဖြစ်နေရပါလိမ့်မလဲ၊ လိုပါတယ်၊ ဟောဒီ အလယ်ဖောင်းချက် လိုက်နေတာ၊ နောက်ဘဝက၊ ဘဝပေါင်း များစွာက ပြုထားတဲ့ အလယ်စိတ် အကုသိုလ် အလယ်ဖောင်းချက်က နောက်ကလိုက်နေတယ်။ အဲဒီတော့ တတိယဘဝကစ၍ နိဗ္ဗာန်ရသည့်တိုင်အောင် လုပ်တတ်



သည့်တရား၊ ဒါဖြင့် တို့မှာ ကြောက်လန့်ပြီး ဘယ်အခါကာလမှ အရောင်းဖျင်း၊ အဝယ်ဖျင်းနဲ့ ၊ အင်း နေရတာ၊ စိတ်၊ လက် ကောင်းကောင်းမွန်မွန်ချပြီး နေရတယ်မရှိဘူး၊ ဒါတွေလိုက်နေတာပဲ။

နောက်ဘဝများစွာက ဟာတွေက လိုက်နေတာ၊ အဲဒီတော့ ကျုပ်တို့ဒီလိုက်တွေ နောက်ကလိုက်နေတယ်၊ ဒါဖြင့် ကံလိုက်နေလို့ရှိရင်ဖြင့် ကံနဲ့တားမှ ရမယ်၊ ကံလိုက်နေရင် ကံနဲ့တားမှရမယ်၊ ကံနဲ့လာတာကို ကံနဲ့တားမှ ရမယ်ဆိုလို့ရှိရင်ဖြင့် စုနတုံးက ဝိပဿနာရှုတဲ့အခါမှာ ဖြစ်ပျက်မြင်ရင် မဂ္ဂင်ငါးပါး မပါဘူးလား။ ရှုချင်တဲ့စေတနာကော မပါဘူးလား၊ ဒါဖြင့် ဒီထဲမှာလဲ ကံလဲပါတယ်၊ ဉာဏ်လဲပါပါတယ်၊ ပဌမဇောထဲ ကံလဲပါတယ်၊ ဉာဏ်လဲပါတယ်၊ ကံက သဟဇာတအဖြစ်နဲ့ပါတယ်၊ ဉာဏ်ကတော့ဖြစ်ပျက်မြင်သောကြောင့် သူသတ္တိပဲ။

အဲ ပဌမဇောထဲမှာ ကံလဲပါတယ်၊ ဉာဏ်လဲပါပါတယ်၊ ဒါဖြင့် ဒီကံ ဉာဏ်နဲ့ နောက်က ခင်ဗျားတို့ နောက်ကကံတွေကို တားရမယ်၊ ဒါဖြင့် ဘာနဲ့တားရမယ်၊ ဒီကဉာဏ်နဲ့ နောက်က လိုက်လာတဲ့အလယ်ဖောင်းချက်ကံတွေပေါ့ဗျာ၊ အဲဒါတွေ ဒါနဲ့မှ မတားလို့ရှိရင် ဖြစ်ကိုမဖြစ်ဘူး။ ဒီလိုလိုက်နေတာ မရှိလို့ရှိရင်လည်း ခပ်အေးအေးနေ ကြပေါ့၊ အခုတော့ လိုက်နေတယ်ဆိုတာကလဲ ခင်ဗျားတို့ နှစ်ပေါင်းနှစ်ဆယ်တိုင်တိုင် နေလာခဲ့ပြီ၊ အထိတ်အလန့် နဲ့ပဲ နေပြီးခဲ့ရတာပဲ။

ဟို ဖုံးတွေ ဘာတွေကျတုန်းကဆိုရင် ကိုယ့်အိမ်ကိုယ်ယာ ပစ်ပြီး ပြေးခဲ့ရတယ်၊ ဒီကံတွေ လိုက်တယ်ဆိုတာက သေချာ

ပြီလား၊ အဲဒီတော့ ခြောက် တို့နောက်က အတိတ်ကံ ၊ အကုသိုလ်ကံတွေ လိုက်နေတာပဲ၊ ဒါဖြင့် ဒီအကုသိုလ်ကံတွေကို ယခုဘဝ ဝိပဿနာ အားထုတ်တဲ့ ပဌမဇောတည်းဟူသော ကံနဲ့ ညက်နဲ့တားပါ၊ အသံပလံတွေ အမျိုးမျိုး အဖုံဖုံ ခင်ဗျားတို့ ကြားတန်သလောက်ကြား၊ သိတန်သလောက် သိတယ်၊ လုံးဝနေရာမကျဘူးဆိုတာ သိတန်သလောက်သိနေ တော့။

ခြောက် တို့ အကုသိုလ်ကံ လိုက်နေတယ်ဆိုတာ ပါလာတယ်၊ ပါလာတော့ ဒီဇောကို ကျုပ်တို့ အားကိုးရမယ်၊ ဒါဖြင့် အတ္တာဟိ အတ္တနော နာထော ဆိုတဲ့အတိုင်း မိမိပြုထားတဲ့ ဒီဝိပဿနာကုသိုလ်ပဲ အားကိုးရမယ်၊ ကုသိုလ်ထဲမှာလဲ ဒီပဌမဇောပဲ၊ အခု အရေးတကြီး ကာကွယ်ပေးမှာကဖြင့် သူပဲ။

ဒါဖြင့် မလုပ်ဘဲနေလို့ရှိရင် ခင်ဗျားတို့ နောက်ကံတွေက ထင်သလိုအကျိုးပေးပြစ်မယ်၊ သူပဲ အားထုတ်နေလို့ရှိရင်ဖြင့် သူက တားလိမ့်မယ်၊ သူက ကုသိုလ်ကို ၊ ကုသိုလ်ဆိုတာက အကုသိုလ်ကို ဖြတ်တတ်တယ်၊ အင်း ဒီကုသိုလ်မရှိရင် သူက အစဉ်အတိုင်း အကျိုးပေးမယ်၊ ဒီကုသိုလ်ရှိနေရင်ဖြင့် သူက ဖြတ်ပစ်လိုက်တယ်၊ မင်းမလာခဲ့ နဲ့ဆိုပြီးဖြတ်မပေးဘူးလား။

အဲတော့ သူကဖြတ်ပေးမှာ ဇကန်သိရဲ့သားနဲ့မှ ကျုပ်တို့က လက်နက်ကောင်း ကိုယ့်လက်ထဲ ကိုယ့်ညက်ထဲ ကိုယ့်ဝမ်းထဲမထားဘူး ဆိုလို့ရှိရင် မင်းတို့ နောက်ကလိုက်လာတဲ့ ကံတွေ ထင်သလိုစီမံလိမ့်မယ်။ ဘယ့်နှယ်ကြောင့် ထင်သလို စီမံနေမတုံး အတားမရှိလို့၊ အဆီးမရှိလို့ပဲ၊ သူတို့ ဝင်ချင်သလို



ဝင်တယ်၊ ဒါဖြင့် ခင်ဗျားတို့ ကြားဖူးတဲ့အတိုင်း ပဌမဇောက ဒိဋ္ဌဓမ္မအကျိုးပေးတယ်ကွ၊ အဲဒီတော့ အကုသိုလ်ပဌမဇောကလဲ ဒိဋ္ဌဓမ္မအကျိုးပေးတာပဲ၊ အခု ဝိပဿနာပဌမဇောကကောလဲ အကျိုးပေးတာပါပဲ။

အဲ ဒီဟာကို ကိုးစားအားထား ပြုကြလို့ ဆိုတာ ခင်ဗျားတို့ လုပ်မှ ရမယ့်အလုပ် မလုပ်လို့ရှိရင် ဒီဇောပေါ်ကို မပေါ်ဘူး၊ ပေါ်လာလို့ရှိရင်လဲ ဒါနကုသိုလ်ထက် သူကထက်တယ်၊ သီလကုသိုလ်ထက် ထက်ပါတယ်၊ သမထ ကုသိုလ်ထက် ထက်ပါတယ်၊ ဒါဖြင့် အထက်ဆုံး ကုသိုလ်လို့ဆိုရင် လွဲမလား။

အဲဒီတော့ ဒီဟာကို များများ ဝမ်းထဲမှာ ပဌမဇောပေါင်း ခဏခဏပေါ်ဖို့ အရေးကြီးတယ်၊ ကောင်းပြီ ဒါဖြင့် ကျုပ်တို့ ခင်ဗျားတို့သည် ဝိပဿနာရှုနေမယ်ပြောလိုက်တာပေါ့၊ ဝိပဿနာရှုနေရပါမယ် လို့မှတ်ကြစမ်းပါ။ ဝိပဿနာရှုရင် ဒီဇောကစတာပဲ၊ ဒီဇောမပါဘဲနဲ့ ရှုလို့ရ မလား၊ ဒါဖြင့် ဒီဉစ္စာ ကျုပ်တို့၏ ကိုးစားရာ အားထားရာအစစ်၊ အကုသိုလ် နောက်က ပါလာတာတွေကိုလဲ သူဖြတ်တယ်၊ ဖြတ်ပြီးသူက ကောင်းကျိုးကို သူက ပေးပစ်လိုက်မယ်၊ သူက ဒီဘဝမှာ အကျိုးပေးမဲ့တရားဖြစ်လေသောကြောင့် လူကောင်း နတ်ကောင်းဖြစ်အောင်တော့ သူမလုပ်ဘူး၊ ကပ်သုံးပါးကျော် လွှားနိုင်အောင် လုပ်မှာပါ၊ စီးပွားဉစ္စာ ရတနာတို့ ဖွံ့ဖြိုးအောင် လုပ်မှာပါ။

ဒါပဲတတ်နိုင်တယ် သူက ဒုတိယဘဝမှာ မင်းအကျိုးပေးစမ်းပါဆိုတော့ သူက မပေးနိုင်ဘူး၊ မစွမ်းနိုင်ဘူးကွဲ့ ဒုတိယ

ဘဝ အကျိုးပေးမှာတော့ သူမစွမ်းနိုင်ဘူး၊ ဒုတိယဘဝ အကျိုးပေးမှာ တွေ့ရှိနေတော့ တတိယဘဝအကျိုးပေးမှာတွေ ဒီငါးခု ရှိနေပေါ့။ အဲဒီတော့ သူ့စခန်းနဲ့သူ သင့်ည္ဟတ ရှေ့ညာဏ်တော်နဲ့ ပြောထားတာ၊ သူ့အကျိုးပေးကို ဘုရားမှသိတာကိုဗျ။ ကျုပ်တို့က အနုဘုရား၏ တပည့်သားတွေဖြစ်နေလို့ပဲ၊ ဒီဟာ အားကိုးကြဆိုတာ သူဟောတဲ့အတိုင်း ဟောရတာ အဲ သဘောပါလို့ ရှိရင်ဖြင့် တပည့်တော်တို့ ဘာနဲ့ ဒီကပ်ကျော်အောင် လုပ်ရမှာတုံးမေးရင် အဖြေထွက်ပြီလား။

ဝိပဿနာ ပထမဇောပေါ်အောင် များများလုပ်ရမယ်၊ ဖြစ်ပျက်များများ မြင်အောင် လုပ်ရုံပဲ၊ ဖြစ်ပျက် ခဏခဏ မြင်အောင် လုပ်ရုံပဲ၊ ဖြစ်ပျက် ခဏခဏ မြင်အောင်ဆိုတော့၊ ပထမဆုံးမြင်တာက ပထမဇောပဲ၊ ဒုတိယမြင်တာက ဒုတိယဇောပါပဲ၊ တတိယမြင်တာက တတိယဇောပဲ။ ဒါဖြင့် ပထမ မပါဘဲနဲ့ ဒုတိယ၊ တတိယ၊ စတုတ္ထ၊ သတ္တမ မဖြစ်နိုင်ဘူးဆိုတာ သဘောကျပြီလား၊ ဒါဖြင့် သူသည်ကား ဆိုလို့ရှိရင်ဖြင့် ကံပဲ၊ အကုသိုလ်ကံကို တားတဲ့တရား၊ အကုသိုလ်ကို တားတဲ့တရားလို့ ဆိုပေတော့၊ ဒါဖြင့် ကုစ္ဆိတေ ပါပကေ သလယန္တိ ဆိန္ဒန္တိ ကမ္မေန္တိ ပီက္ခမ္မေန္တိတိ ကုသလာ၊ ကုစ္ဆိတေ = စက်ဆုပ်ဘွယ်ရာ ဖြစ်ကုန်သော၊ ပါပကေ = ယုတ်မာကုန်သော၊ ဓမ္မေ = နောက်ကလိုက်လာတဲ့ အကုသိုလ်တရားတို့ကို၊ ဆိန္ဒန္တိ = ဒီပထမဇောက ဖြတ်တတ်၏။

နောက်ကလိုက်လာတာတွေ မလာခဲ့နဲ့ကွ၊ သူက ဖြတ်တတ်



တယ်၊ ဒါဖြင့် သူ့ပဲ ကျုပ်တို့သည် ကိုးစားရာ အားထားရာ အစစ် လုပ်ရတော့မယ်၊ ဒါဖြင့် ကုသိုလ် ပထမဇော အားကိုးရမယ်၊ အကုသိုလ်တွေ နောက်ကရှိသလား မရှိသလားလို့ မမေးနဲ့၊ လူတိုင်းရှိတယ်၊ ရှင်းပြီလား၊ ဘယ်လိုပုဂ္ဂိုလ်မရှိဘူး လို့ဆိုလို့ရသလား၊ မရပါဘူးနော်။

အဲ အကုသိုလ်ရှိတယ်၊ မရှိတယ်၊ ဒကာ ဒကာမတွေကိုယ့်ဖြစ်စဉ်သာ ကိုယ်ကြည့်၊ ခုနစ်ပေါင်း နှစ်ဆယ်အတွင်း ဘယ်လိုနေခဲ့ရတယ်ဆိုတာကိုသာကြည့် ကြည့်တော့ ဘယ်လိုပြောကြသလဲ၊ အကုသိုလ်ရှိပါတယ်။

တပည့်တော်တို့ဘုရား ပြေးရ လွှားရ ကြောက်ရ လန့်ရ ဟုတ်လား၊ ဒါနဲ့ပဲသာ ကြီးလာခဲ့တာပဲဘုရား၊ အဲ ဘယ့်နှယ် ကြောင့် ဒါတွေကြုံရပါလိမ့်မလဲဆိုရင် နောက်ကလိုက်လာတဲ့ ကံတွေကို ဒီက မဂ်ဇောနဲ့ မတားရင် ခင်ဗျားတို့ သူတို့ ထင်သလို အကျိုးပေးလိမ့်မယ်၊ ထင်သလို အကျိုးပေးမှာဖြစ်နေတော့ ကိုးစားရာဖြင့် သူ့ကိုထားမှပဲ။ ကောင်းပြီ၊ ဒါဖြင့် အင်္ဂုလိမာလ ခိုးသူကြီး၊ ဒီဝိပဿနာဇောတွေကြောင့် နောက်ကလိုက်လာတဲ့ ကံတွေကတော့ မနည်းလှဘူးပေါ့ဗျာ၊ အဲဒီကံတွေကို မဂ်နဲ့တားလိုက်တော့ ဒီပုဂ္ဂိုလ်တွေ ဒီဘဝမှာဘဲ ရဟန္တာဖြစ်တယ်၊ မဂ်ကြောင့်ဖြစ်တယ်၊ ဟိုနောက်ကလိုက်လာတဲ့ကံတွေလဲ။

ဘဝကလဲ လူမိုက်တွေဖြစ်ခဲ့တယ်၊ အတိတ်ဘဝကလဲ လူမိုက်ချည်းပဲ၊ အဲဒီလူမိုက်ကံတွေကလဲ ယခုရတဲ့မဂ်ကဖြတ် ချလိုက်တယ်၊ ဒီဘဝ မိုက်ထားထာတွေကိုလဲ ယခုဘဝ မဂ်က

ဖြတ်ချလိုက်ပါတယ်၊ နောက်ဆို သံသရာရှည်လို့ မဂ်မရသေးလို့ မိုက်လတ္တွဲတွေကိုလဲ သူကဖြတ်တယ်၊ ဒီမဂ်ဇောကဖြတ်တယ်။

ဒါဖြင့် ဒီလိုပုဂ္ဂိုလ်တွေ ထောက်လိုက်လို့ရှိရင်ဖြင့် တို့သည်ကား ဆိုလို့ရှိရင်ဖြင့် ကိုးစားရာ အားထားရာ လက်ကိုင်အစစ်တွေပြီလို့ဆိုတာ ဆုံးဖြတ်ချက်ချပါ၊ နို့ ဒါဖြင့် ဘုရားအခုကပ်ကြီးထဲမှာ ကြုံလာပြီး သေခြင်းဆိုးသေ၊ သေနတ်ဖြင့် ပစ်လို့သေ၊ လုံနဲ့ထိုးပြီးလို့ သေကြ၊ ပြုကြ အမျိုးမျိုး အဖုံဖုံ၊ ဇောခုနစ်ကြိမ်ရှိတဲ့အနက်က သူနောက်က အပရာပရိယကံတွေက လိုက်မလာဘူးလား။

အဲဒီကံတွေကို ဒီဘဝ သူစိတ်ကလဲ မကောင်းဘူး၊ မကောင်းတော့ သူစိတ်ကလဲ ဇောခုနစ်ကြိမ်မစောပေဘူးလား၊ မကောင်းတဲ့ဇောပေါ့ဗျာ၊ ဒေါသဇောဖြင့် ဒေါသဇော၊ လောဘဇောဖြင့် လောဘဇော၊ အဲဒီ ပထမဇောကနေပြီး ဟို ကံတွေကို တစ်ခါတည်း အားပေးလိုက်တယ်။ ဒါဖြင့် မကောင်း မကောင်းခြင်းအားပေးတဲ့အတွက် သေခြင်းဆိုးသေရတယ်၊ တချို့ သေခြင်းဆိုးသေကြတာသည် ဒီဘဝကံကလည်း ကူညီလိုက်တယ်၊ နောက်ကကံလဲ အကျိုး ပေးလိုက်တယ်၊ ဒါဖြင့် နောက်ကံကလိုက်လာတာ သေချာတယ်၊ သို့သော် ဒီဘဝမှာ ဒီကံမျိုးပဲ ကူပေးလိုက်မယ်ဆိုတော့ ဒီအချိန်မှာ ဒီနာရီမှာပဲ တစ်ခါထဲ ဒုက္ခရောက်တဲ့ပွဲတွေ မတွေ့ရဘူးလား။

အဲဒါ အကုသိုလ် အကုသိုလ်ခြင်းကူလိုက်တာ ဒါဖြင့်



တားမဲ့ကုသိုလ် မလာလို့ပေါ့၊ ဒါဖြင့် အကျိုးပေးတာသည် ဒီဘဝကံက အကူအညီ၊ နောက်ဘဝကံက တကယ်အကျိုးပေးတာ၊ ဒီဘဝကံကတော့ ပထမဇောကိုးဗျ၊ အကူအညီပဲပေါ့ နောက်ကံတွေက အကျိုးပေးတယ်ဆိုတာ သဘောကျပြီလား၊ အဲ ဒီဘဝ နောက်ကံတွေက အကုသိုလ်ကံလာတယ်၊ ဒီဘဝ အကုသိုလ်ကံ ပထမဇောကလည်း ကူညီလိုက်မယ်ဆိုရင် ဒီပုဂ္ဂိုလ်ဟာမကြာတော့ဘူး၊ အကုသိုလ် အကျိုးပေးပဲချလိုက်တာ၊ ဒါဖြင့် သူမှာ အကူအညီကင်းမဲ့နေတဲ့ အဓိပ္ပာယ်မရဘူးလား။

အကုသိုလ် အကုသိုလ်ခြင်းသာ ကူတော့တယ်၊ တား ပေးမဲ့ကံလာသေးရဲ့လား၊ ဒါဖြင့် ဒီ ဒကာ ဒကာမတွေကျတော့ ဆရာဘုန်းကြီးတို့က ဘုရားတို့က ဘယ်လိုပြောရသတုန်း၊ မင်းတို့အကုသိုလ်ကံတွေရှိတော့ရှိသပေါ့၊ ဒါနဲ့ တားကြကွ။

အကုသိုလ်ကံကတော့ မရှိဘူးလို့ သွားယူ လွဲတော့မပေါ့၊ လူတိုင်းရှိတယ်နော်၊ လူတိုင်းရှိတာကို မေးကြည့်မယ်၊ ဟုတ်လား၊ ဥပမာမယ် အင်း စစ်ထဲမှာ ခင်ဗျားသည် ဘယ်နှစ်နှစ် နေခဲ့ရသတုန်း၊ ဟာ ကြာပြီဘုရား၊ ဂျပန်အုပ်ချုပ်သွားတာသုံးနှစ်မှာလဲနေခဲ့ရတာပဲ ဆင်းဆင်းရဲရဲနဲ့ မနေရဘူးလား။

နောက် အင်္ဂလိပ်ပြန်ဝင်လာပြီး အုပ်ချုပ်ရေးမကောင်းတစ်ကောင်းနဲ့လဲ အတော်ကြာသေးတာပဲ၊ နောက်တစ်ခါ လွတ်လပ်ရေး ရပြီးသည့်နောက်လဲ ထွက်ကြ ပြုကြနဲ့ အင်း မကောင်းတာနဲ့ဘဲ နေရတယ် ဆိုကြပါစို့၊ ဒါ နှစ်ပေါင်းအတော်

ကြာပြီ မဆိုနိုင်ဘူးလား။

ဒါ အကုသိုလ်ကံတွေက အကျိုးပေးတာပါ၊ နောက်ကံတွေနော်၊ နောက်ကံတွေက အကျိုးပေးနေတယ်၊ အင်း ဒါဖြင့် ကျုပ်တို့နောက်က အကုသိုလ်ကံတွေ ရှိလေသလား၊ မရှိလေသလားလို့ တွေးဖို့လိုသေးသလား၊ ဒါဖြင့် တပည့်တော်တို့ ယခုတိုင်တိုင် အသက်မသေ ရှင်ပြီးနေတာ နောက်ကံတွေက တော့ သေချာပါပြီဘုရား။

ခင်ဗျားတို့ ထိုက်တန်သလောက် ကုသိုလ်လေးရှိနေတယ်၊ ထိုက်တန်သလောက် ပထမဇောရှိနေတယ်၊ အဲဒါလေးက ကူထားတာ၊ အခုတော့ အဲသည်ထက်ကြီးတဲ့ ကံကြီးတစ်ခုကို ဆရာဘုန်းကြီးက ပေးမယ်၊ ဒီထက်အကြီးဆုံး ကံကြီးဆိုတဲ့သူ မဂ်ဇော ပေးတာပဲ။ မဂ်ဇောဆိုတော့ ဟိုကလေးတွေကတောင်မှ ထိုက် တန် သလောက် တားနိုင် ဆီးနိုင်သေးတာပဲ၊ ဒီကံကြီးဆိုတော့ ပိုပြီး အကူအညီရပါတယ်၊ များများ အကူအညီရလိမ့်မယ်၊ အေး ဒီဥစ္စာဖြင့် ကိုးစားရာ အားထားရာ အစစ် အတ္တာဟိ အတ္တနော နာထောဆိုတဲ့ ဒီကိုယ်ကြီးကို အားထားရတာ မဟုတ်ပါဘူး၊ အတ္တာဟိအတ္တနော နာထောတိ ။ မိမိပြုထားတဲ့ ကုသိုလ်ကိုသာ အားကိုးရမယ်လို့ ဘုရားက သေသေချာချာဟောတယ်။

အဲဒီဇောကို အားကိုး၊ ဒီဇောက အလိုလိုလာမှာလား၊ ရှုမှလာမှာလား၊ မရှုရင် ဝင်ကိုမလာဘူး၊ ဒါဖြင့် ဖြစ်ပျက်ရှုတိုင်း ရှုတိုင်း၊ မဂ်ဇောလာမယ်၊ မဂ်ဇောလာရင် တစ်ကစတာပဲ၊ တစ်



မဖြစ်ရင် နှစ်က မဖြစ်ပါဘူးနော်။ ဒါဖြင့် တစ် ပထမဇောပေါ့ဗျာ၊ ဒါဖြင့် ဝိပဿနာရှုနေတဲ့ ပုဂ္ဂိုလ်တစ်ဦး တစ်ယောက်မှာဖြင့် ဘယ်လိုပဲ နောက်က အကြောင်းညီညွတ်တဲ့ ကံတွေ လာစေကာမူ သူက တားတယ်၊ အေး တားမှာသေချာသိရက်နဲ့ ခင်ဗျားတို့ကအကာအကွယ်မယူဘူးဆိုရင် ကိုယ့်ကိုယ်ကို မသနားတဲ့ပုဂ္ဂိုလ်၏ အပြစ်ပဲ။

ဒီ ဝိပဿနာ ခေတ်ကောင်းကြီးကို အလွဲသုံးစားလုပ်တယ်ဆိုတဲ့အပြစ်လည်းသင့်ရမှာပဲ၊ တော်တော်အရေးကြီးလို့ ပြောနေတယ်၊ ကောင်းပြီ ၊ ဒီဥစ္စာ ခဏရပ်လိုက်ပါ၊ ကိုင်း ခင်ဗျားတို့ အရေးကြီးတဲ့အခါကျတော့ ပရိတ်တွေရွတ်ကြတယ်၊ ရာဇတောဝါ၊စောရတောဝါ၊မနုဿတောဝါ၊ အမနုဿတောဝါ၊ အဂ္ဂိတောဝါ၊ ဥဒကတောဝါနဲ့ မရွတ်ကြလား။

အင်း ဒါတွေရွတ်ရုံနဲ့ အင်း ဒီတောမှ လွတ်ရပါလို၏။ ပြောပါတယ်၊ တောတွေမှ လွတ်ရပါလို၏ ဆိုကြားသော်လည်း ကိုယ့်သန္တာန်မှာ ကိုက ဒီတော ရှိနေမယ်ဆို ဘယ်လွတ်မလဲ၊ ဒီတောတွေမှ လွတ်ရပါလို၏၊ မင်းဘေးမှ လွတ်ရပါလို၏၊သူခိုးဘေးမှ လွတ်ရပါလို၏ ဆိုထားကြားသော်လည်း မိမိသန္တာန်မှာဘဲ ဒီ တောတွေရှိနေမယ်ဆိုရင်ဖြင့် လွတ်အောင် မလုပ်နိုင်ပါဘူးနော်၊ အဲဒါကြောင့် ခင်ဗျားတို့ကိုပြောရတယ်၊ ကိုင်း ရာဇတောဝါကို မရတဲ့ပုဂ္ဂိုလ် တော်တော်ရှားတယ်၊ အဲဒီတော့ အသဒ္ဓမ္မတောဝါဆိုတာပါတယ်၊မဟုတ်လား၊ မသူတော်တရားဘေးမှလည်းကောင်း၊ မသူတော်တရား၊ မသူတော်

တရားဆိုတာ ကိုယ့်ဝမ်းထဲမှာ သူ့တစ်ပါး ပစ္စည်းကို မတရား သဖြင့် လိုချင်၊ ဘယ်သူသေတာကြိုက်တယ်၊ ဘယ်သူ့ဘက်က နိုင်တာ ကြိုက်တယ်။

ဘယ်သူနဲ့ခင်လို့တော့၊ ဘယ်သူ့တော့မုန်းလို့၊ ဒါ မသူတော် စိတ်တွေ ဝမ်းထဲမှာရှိတယ်၊ ဒီတော့က ဒီဘေးကင်း ရပါလို၏ ဆိုပေမယ့် ကိုယ့်စိတ်ထဲ ရောက်နေတယ်၊ မသူတော်စိတ်က ကိုယ့်ဝမ်းထဲရောက်နေတော့ ဘေးကင်းရပါလို၏ ဆုတောင်းတာက အမှားဖြစ်နေတယ်၊ ကိုယ့်ဘေးသင့်နေတာက ဝမ်းထဲကိုရောက်နေတယ်။

ဒါဖြင့် အသဒ္ဓမ္မတောဝါလို့ ဆိုတာ ဒကာ ဒကာမတွေ ဝမ်းထဲမှာ မရှိမှ၊ အသဒ္ဓမ္မတောဝါ မသူတော်တရားဘေးမှ လည်းကောင်း၊ သူတော်တရားဘေးမှ လွတ်ရပါလို၏ ဆိုလို့ရှိရင် မသူတော်တရားနော်၊ အဲဒါ ဒီဥစ္စာတွေက ဘယ်သူ့သေစေလို ဘယ်သူ့ရှင်စေလို အစရှိသည် ဖြစ်နေမယ်ဆိုတာ မသူတော်တရားပါပဲ၊ အဲဒါ ဘယ်ရောက်နေသလဲ ဝမ်းထဲရောက်နေပါတယ်လို့မှတ်ပါ၊ ပြီးတော့ သူက ဘေးလွတ်ရပါလို၏လို့လုပ်လိုက်သေးတယ်၊ သူ့ဝမ်းထဲရောက်နေတယ်၊ ဒါဖြင့် အသဒ္ဓမ္မတောဝါဆိုတာသည် ဝမ်းထဲရောက်နေလို့ရှိရင် သူလည်း ဆိုးဝါးတဲ့ တရားတစ်မျိုးပဲ။

ရှေ့ဆက်လိုက်ပါဦး၊ အသဒ္ဓမ္မတောဝါပြီးတော့ အသန္တိဋ္ဌိတောဝါအမြင်မှားတဲ့ဘေးမှလည်းကောင်း၊ အသန္တိဋ္ဌိတောဝါဆိုတာ အမြင်မှားတဲ့ ဘေးပါပဲ၊ အဲ အမြင်မှားဆိုတာက ခင်ဗျားတို့ခန္ဓာ



ကိုယ်ကြီးက အနိစ္စကြီး၊ ဒုက္ခကြီး၊ အနတ္တကြီး၊ အသုဘကြီး၊ အဲဒါကို တစ်ခါထဲ မုန်းစရာဖြစ်လာရင် အမြင်မှားပြီ။ အဲဒီအမြင်မှားတဲ့ဘေးကလည်း ခင်ဗျားတို့၊ ဝမ်းထဲရောက်နေလို့ရှိရင် ခက်တယ်၊ ခင်ဗျားတို့ကလည်း ဘေးလွတ်အောင် လို့ပြောတာပဲ၊ သူတို့က ဝမ်းထဲရောက်နေရင် မလွယ်ဘူး၊ ဒါဖြင့် ဒီနှစ်ခုကို မှတ်ပြီးပြောပါ့မယ်၊ အခု ဝမ်းထဲမှာ မကြာ မကြာရှိနေတာက အသဒ္ဓမ္မတောဝါဆိုတဲ့ မသူတော်တရား၊ အသန္တိဋ္ဌိတောဝါဆိုတဲ့ လူကောင်၊ နတ်ကောင်ထင်နေတဲ့ အမြင်မှားတဲ့တရား။

အသဒ္ဓမ္မတောဝါဆိုတာ မသူတော်တရားပါ၊ မသူတော်တရား ဒုစရိုက်ဆယ်ပါးတွေပေါ့ဗျာ၊ အသန္တိဋ္ဌိတောဝါ အမြင်မှားဆိုတာက ဖြစ်ပျက်ရှိရက်နဲ့ ဖြစ်ပျက်ကိုမမြင်ဘူး၊ အသန္တိဋ္ဌိဘေးသင့်တာပဲ။ မသူတော်တရားဘေးနဲ့ အမြင်မှားတဲ့ဘေး၊ ဒီနှစ်ခုဝမ်း ထဲမှာ ခင်ဗျားတို့ ရှိနေမယ်ဆိုလို့ရှိရင် သံလိုက်လို့ ဘုန်းကြီးက ပြောတယ်၊ ဒါ ဝမ်းထဲရောက်နေပြီ ဆိုကြပါစို့။

ဒုစရိုက်ဆယ်ပါး၊ ပြီးတော့ ရုပ်နာမ်တွေကို ငါထင် သူထင်၊ ဟိုလူ့မုန်း ဒီလူ့ချစ်၊ ဟုတ်လား၊ ဒါတွေ အမြင်မမှားသေးဘူးလား၊ အင်း ဖြစ်ပျက်တွေ ဥစ္စာပဲ၊ အနိစ္စတွေ ဥစ္စာပဲ၊ ချစ်စရာလဲမရှိဘူး၊ မုန်းစရာလဲမရှိဘူး၊ မှန်မှန်နေရမဲ့ဥစ္စာ၊ ဘယ်သူ့ချစ်တယ် ဘယ်သူ့မုန်းတယ်ဆိုတာ အမြင်မမှားဘူးလား၊ ဒီ အမြင်မှားတဲ့တရားလည်း ဝမ်းထဲမရှိဘူးလား၊ ဒါဖြင့် အသဒ္ဓမ္မတောဝါ အသန္တိဋ္ဌိတောဝါ၊ အသပ္ပုရိသတောဝါ၊ အင်း

ရှေ့ဆက်ရွတ်လို့မရဘူး။

အသဒ္ဓမ္မတောဝါ နဲ့ အသန္တိဋ္ဌိတောဝါ၊ အသဒ္ဓမ္မတောဝါ ဆိုတာ ဝမ်းထဲမှာ မတရားတဲ့စိတ်တွေ၊ အသန္တိဋ္ဌိတောဝါဆိုတာ မိမိခန္ဓာကိုယ်ကြီးကို ငါ၊ သူထင်နေတာ၊ သူတစ်ပါးကို ယောကျ်ားတွေ၊ မိန်းမတွေရယ်လို့ တကယ်ထင်နေတာ၊ အနိစ္စ၊ ဒုက္ခ၊ အနတ္တ အသုဘတွေပျောက်၊ ဒီလို ထင်နေတာက အသန္တိဋ္ဌိတောဝါ။

ဒါဖြင့် ဝမ်းထဲမှာဒီတရားနှစ်ခုရှိနေလို့ရှိရင် ဒကာဒကာမတို့ သူတို့သံလိုက်တဲ့၊ သံလိုက်ဆိုတာ ဆွဲတတ်တယ်၊ သူတို့က အကုသိုလ်တရားတွေပါ၊ တစ်ခါထဲ ဒီဘက်က ဓားတို့၊ လှံတို့၊ သေနတ်တို့ဆိုတဲ့ မကောင်းတဲ့ အကုသိုလ် အကျိုးပေးတွေဟာ သူတို့ရှိမှလာတယ်၊ သူတို့က ဆွဲယူတယ်၊ သူတို့က သံလိုက်နဲ့တူပါတယ်၊ ဒါက သံရိုင်းတွေက တစ်ခါထဲ ဒီဝင်ကပ်တာပဲ။ အင်း အဖော်ရှိလို့လာတာ၊ အဖော်မရှိရင် မလာပါဘူး၊ ဒီက သံလိုက်ကပ်ထားတာနဲ့ သံရိုင်းဓာတ်တွေက ဒီကနေ ဝင်ဝင်လာကြတယ်၊ကောင်းပြီ၊ဒါဖြင့် ဒီနှစ်ခုဟာ ဒုစရိုက်ဆယ်ပါးဆိုတဲ့ မသူတော်တရား၊ အနိစ္စ၊ ဒုက္ခ၊ အနတ္တ မမြင်တဲ့ အသန္တိဋ္ဌိတောဝါ အမြင်မှားတဲ့ဘေး။

တစ်နံပါတ်က မသူတော်တရားဘေး၊ နှစ်နံပါတ်က အမြင်မှားတဲ့ဘေးပါ၊ ဒီနှစ်ခု ဝမ်းထဲရောက်နေလို့ရှိရင် သံလိုက်၊ ဒါဖြင့် ဒီကပ်တွေ ဓားဘေး၊ လှံဘေး၊ သေနတ်ဘေး၊ မင်းဘေး၊ စိုးဘေး၊ သူခိုးဘေးဆိုတာတွေ သူတို့က ဆွဲတာ၊



ဒီတရားနှစ်ခုက သံလိုက်မို့ ဒါတွေ ဆွဲယူလိုက်တာ။

ဒါဖြင့် ဘေးကဟာ ကြောက်စရာလား၊ ဆွဲဓာတ် ကြောက်စရာလား၊ အဆွဲဓာတ်နဲ့ အလာဓာတ် အဆွဲဓာတ် ကြောက်စရာကောင်းတယ်ဆိုတာက အတော်ကို သေချာတယ်၊ အဆွဲဓာတ်က အသဒ္ဓမ္မတောဝါ နဲ့ အသန္တိဋ္ဌိတောဝါပါ၊ ဟုတ်ပြီ အသဒ္ဓမ္မတောဝါကစပါ၊အသဒ္ဓမ္မတောဝါ နဲ့ အသန္တိဋ္ဌိတောဝါပါ။

အသဒ္ဓမ္မတောဝါ = မသူတော်တရား၊ အသန္တိဋ္ဌိတောဝါ = အမြင်မှားတယ်လေ၊ ယောကျ်ားတွေ ရှိနေတယ်၊ မိန်းမတွေ ရှိနေတယ် ထင်နေတဲ့ အနိစ္စ၊ ဒုက္ခ ၊ အနတ္တတွေကို၊ အဲဒီတော့ အမြင်က မှားမနေဘူးလား၊ အဲ ဒီတရားနှစ်ခုက ဝမ်းထဲမှာ အမြဲတေပါပဲ၊ သံလိုက်ပါပဲ။

သူတို့နှစ်ခုသာ ရှိနေမယ်ဆိုရင်ဖြင့် ဒီဘက်က ဟုတ်လား၊ ငတ်မွတ် ခေါင်းပါးတဲ့ဘေး၊ အင်း စီးပွားရေးအကြောင်း မညီညွတ်တဲ့ဘေး၊ ဟာ သေနတ်ဘေး၊ လူမှုန်းများတဲ့ဘေး၊ ဝိုင်းပြီး နှိပ်စက်တဲ့ဘေး သင့်ပါတယ်။

အင်း သင့်ချင်လို့သင့်ရတာလား၊ ဆွဲယူတာလား၊ ဆွဲယူတာပါ၊ မယုံရင် ခင်ဗျားတို့ကြည့် လူတစ်ယောက်က ဒေါသကြီးပြီး ဟိုရမ်း ဒီရမ်း နေတယ်လို့ ဆိုလို့ရှိရင်ဖြင့် အရပ်က ဝိုင်းပြီး ဒီကောင်တယ်ဆိုးတဲ့အကောင်ကွာ။ တို့တစ်ရပ်လုံးက ဝိုင်းရိုက်ကြစို့ ဆိုပြီး တစ်ချို့နေရာ အရိုက်မခံရဘူးလား။

အဲဒါ ဒိဋ္ဌဓမ္မအကျိုးပေးတာ၊ သူ့ ဒေါသဇော ခုနစ်ကြိမ်၊ ပထမဇောက ဝင်အကျိုးပေးတာ၊ အဲဒါ သူ့သန္တာန် မှာ သူတော်

တရားရှိနေလို့၊ ဘေးက မသူတော်တွေက ဝိုင်းလာတာ။ ဒီလောက်ဆိုးလှတဲ့ အကောင်၊ ဝိုင်းရိုက်ဆိုတော့ ဝိုင်းလာတာတွေဟာ ဒီလောက်ဆိုးလှတဲ့ တရားက ခေါ်တာ၊ ဒီလောက်ဆိုးတဲ့တရားက မခေါ်ရင် ဝိုင်းပြီးရိုက်ကြပါ့မလား။

ဒါဖြင့် ဘယ်သူကခေါ်တာတုန်း၊ အသဒ္ဓမ္မတော်ဝါ နဲ့ အသန္တိဋ္ဌိတော်ဝါ။ အင်း ဒါဖြင့်ဘေးကလူတွေကိုကြောက်စရာလား၊ ဘေးက အန္တရာယ်တွေ ကြောက်စရာလား၊ အဆွဲဓာတ်ရှိတဲ့ တရားကြောက်ရမှာလား၊ အဆွဲဓာတ်ရှိတဲ့တရားကြောက်ရမှာပါ။ ခင်ဗျားတို့ မသိလို့ ဝေဖန်ပြောနေတာ၊ ခင်ဗျားတို့က ဒီ ဥစ္စာရွတ်နေတာ အသဒ္ဓမ္မတော်ဝါ အသန္တိဋ္ဌိတော်ဝါ၊ တို့တော့ ဒါတွေရွတ်သကွ၊ အန္တရာယ်ကင်းရအောင်၊ ဝမ်းထဲတော့ သူကထားတယ်။

ဝမ်းထဲ သူကထားတော့ သံလိုက်ဓာတ်နဲ့တူပါတယ်၊ သံလိုက်ဓာတ်နဲ့တူတော့ ဒီလောက်ဆိုးလှတဲ့ လူဆိုပြီး ဒီက ဝိုင်းရိုက်သလို အကုန်လာကြတာပဲ၊ မကောင်းတာတွေ အကုန်မလာဘူးလား။

ဒါဖြင့် ဒကာ ဒကာမတို့ ဝမ်းထဲမှာ ကပ်ကျော်ကျချင်လို့ ဟုတ်လား၊ ရှိကြလို့ရှိရင် ဒီတရားနှစ်ခုဖယ်မှ၊ သံလိုက်ဓာတ်ဖယ်ရင် ဒီသံရိုင်းတွေ လာဦးမလား၊ သံလိုက်သာ မဖယ်ဘူးဆို ရင် လာမှာပဲနော်။ ဒါဖြင့် ခင်ဗျားတို့ အတွင်းက နှင်ဖို့အရေးကြီးပါတယ်၊ အခုမှ ပေါ်ပေတော့တယ်၊ ဟင်း ခင်ဗျားတို့ အပြင်ကသာ ကြောက်နေတာ၊ အတွင်းက ခေါ်သူလို့လာတာပါဆိုတာ ပေါ်ပြီလား။



ဒါဖြင့် ခင်ဗျားတို့ အပြင် မကြောက်ပါနဲ့၊ အတွင်းကဟာကိုနှင်ပစ်ပါ၊ အတွင်းကဟာကြောက်ပါ၊ ကြောက်ဆိုရင်ကြောက်ပါ၊ ကြောက်ဆိုရင် ကြောက်သည်နှင့် တစ်ပြိုက်နက်သူ့နှင်ပစ်ပါ။

ဒါဖြင့် ခင်ဗျားတို့ အကြောက်လွဲနေတယ်၊ ဘေးကကြောက်နေတယ်၊ ဆွဲတဲ့လူကို မကြောက်ပါဘူးနော်၊ ဘေးတော့ ကြောက်နေတယ်၊ ဆွဲတဲ့လူကိုတော့ မကြောက်ပါဘူးနော်၊ ဒါဖြင့် ဆွဲတဲ့လူက ဝမ်းထဲရောက်နေတာ၊ သူက ခေါ်ယူတယ်ဆိုတော့ ခင်ဗျားတို့က ဟိုဟာ ပရိသတ်နဲ့ တားလို့ ရပ့ါမလား၊ ဒါဖြင့် သူထုတ်ပစ်လိုက်ရင် လာပါဦးမလား။

ဒါဖြင့် အရေးကြီးတာက ဘေးကို ကာကွယ်ဖို့နဲ့ သူထုတ်ပစ်ဖို့ ဘယ်ဟာအရေးကြီးသတုံး၊ သူ့ထုတ်ပစ်ဖို့က အရေးကြီးပါတယ်နော်၊ အခုမှ တရားပေါ်လာပေတော့တယ်၊ အေး သူ့ထုတ်ပစ်ရမယ်၊ သူ့ထုတ်ပစ်ရမယ်၊ ဒါဖြင့် သူက အကုသိုလ်တရားပါပဲ။

အသဒ္ဓမ္မ = မသူတော်တရား၊ အသန္တိဋ္ဌိ = အမြင်မှားတဲ့တရား၊ အဲဒီတော့ မသူတော်တရားဆိုတာက ဒုစရိုက်ဆယ်ပါး အသန္တိဋ္ဌိတော်ဝါ အမြင်မှားတဲ့ဘေးဆိုတာက သက္ကာယဒိဋ္ဌိ၊ မိစ္ဆာဒိဋ္ဌိပေါ့။ ဒါဖြင့် ဒုစရိုက်ဆယ်ပါးနဲ့ မိစ္ဆာဒိဋ္ဌိ ဝမ်းထဲမရှိမှ၊ ဘေးကကပ်တွေ မလာမှာ၊ သူတို့နှစ်ခုရှိနေရင်တော့ လာမှာပဲနော်၊ ဟိုကလာတာလား၊ သူကဆွဲတာလား သူကဆွဲတာပါ၊ ဒါဖြင့် ဟိုမှာကြောက်ရမှာလား၊ သူ့ကြောက်ရမှာလား၊ သူ့ကြောက်ရမှာပါ။

ဒါဖြင့် သူနှင်မှပေါ့၊ သူမနှင်ရင် ဝတ်ပုံမလား၊ အေး ဒါကြောင့် ကဲ ဒါဖြင့် ဘေးက ရန်သူမျိုးငါးပါး၊ တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး၊ ဘေးက ရန်သူမျိုးငါးပါးပါပဲနော်။

ရန်သူမျိုးငါးပါးနဲ့ အတွင်းရန်နှစ်ပါး၊ အတွင်းရန်နှစ်ပါးက ကြောက်စရာကောင်းပါတယ်၊ သို့သော် ခင်ဗျားတို့က ဆုတောင်းယူကြတာက ရန်သူမျိုးငါးပါးကင်းရပါလို၏ဘုရား၊ ဟင် အပြင်ကဟာ မလာပါစေနဲ့။ အတွင်းကတော့ ဖြစ်ချင်သလို ဖြစ်ပါရစေ၊ ဒီလိုကျနေ တာ ဟုတ်လား၊ အတွင်းမှာက တော့ ရန်တွေရှိမှန်းလည်း မသိတော့ အတော်ပဲ အမြင်မှား နေတယ်။ ဒါဖြင့် ဒီနေ့တရားမှာ ခင်ဗျားတို့ အတွင်းရန် အပြင်ရန်ဆိုတာ ပေါ်ပြီ၊ ဒါဖြင့် အတွင်းရန်ကို ပိုကြောက်ရမှာ ပါလို့မှတ်ပါ။ ဘယ့်နှယ်ကြောင့် အတွင်းရန် ကြောက်ရပုံမလဲ၊ သံလိုက်၊ ဆွဲတယ်၊ ဘယ်ဟာတွေများ ဆွဲပါလိမ့်မလဲဆိုရင် ရန်သူမျိုးငါးပါးပါပဲနော်။

အပြင်ရန်ဖြစ်တဲ့ ရန်သူမျိုးငါးပါး၊ ရေ၊ မီး၊ မီး၊ ခိုးသူ၊ မချစ် မနှစ်သက်သောသူ ဒါတွေ ဒီတရားနှစ်ခုက အသဒ္ဓမ္မတောဝါ က ဆွဲတယ်၊ အသန္တိဋ္ဌိတောဝါက ဆွဲတယ်။ ဒုစရိုက်ဆယ်ပါးနဲ့ မိစ္ဆာဒိဋ္ဌိက ဒါတွေဆွဲတာပဲ၊ ဒါတွေဆွဲ တော့ ဒီဟာတွေသည် ကား ဆိုရင် အတွင်းဝင်လာကြမယ်၊ ဝင်လာကြတော့ ဒီပုဂ္ဂိုလ် သေခြင်းဆိုးသေရ၊ ဟုတ်လား၊ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲကြုံ ရ၊ ဒီလို နေရပါတယ်။

အဲဒါ ကံမကောင်းအကြောင်းမသင့်လို့လား၊ အဆွဲဓာတ်



မနှင်နိုင်လို့လား၊ အဆွဲဓာတ် မနှင်နိုင်လို့ပါပဲ၊ ဒါ သတိထားရ မယ်၊ ကံမကောင်းအကြောင်းမသင့်လို့ မဟုတ်ဘူး၊ အဆွဲ ဓာတ်ကို မနှင်နိုင်လို့ပါ၊ လက်ခံတတ်တဲ့တရား မနှင်မိလို့ ကိုယ်ကျိုးနဲရတယ်။ အေး ဒါဖြင့် လက်ခံတတ်တဲ့တရား မနှင်မိလို့ဆိုတော့ လက်ခံတတ်တဲ့တရား နှင်မယ်ဆိုလို့ရှိရင် ဖြင့်အခေါ်ရှိမှ လာမဲ့တရားတွေ၊ လာပါဦးမလား။ အခေါ်ရှိမှ လာ မှာကို၊ အခေါ်မရှိရင် မလာပါဘူး၊ ကိုင်း ခင်ဗျားတို့ လောကီပုံ အတိုင်း အညီရှိမှ ယင်အုံတာ ဒီအညီရှိလို့ ဒီယင်အုံတွေဟာ ဒီအညီမရှိဘူး၊ ယင်မအုံပါဘူး၊ လာပါဆိုလို့ကော မလာပါဘူး။

အေး ဒါကြောင့် အမှိုက်ပုံထားလို့ ခွေးချေးလာယိုတာကို ခွေးမိုက်လိုက်တာလို့ မဆိုနဲ့ ကိုယ်အမှိုက် ပုံတာက စ မိုက်တာ ကိုယ်အမှိုက်ပုံထား တာက လမ်းလယ်ပုံထားတော့ ခွေးချေး လာယိုတယ်၊ ဒီခွေးတယ်မိုက်ပါလားဆိုတော့ ခွေးမိုက်တာ ကို သိတာကို၊ ကိုယ်က မပုံကောင်းတဲ့နေရာ ပုံထားတာတော့ မသိပါဘူးနော်။

ဒါဖြင့် အမှိုက်ရှိရာ ခွေးချေးစုတယ်၊ ဒါဖြင့် ကိုယ့်သန္တာန် မှာရှိတဲ့အမှိုက်တွေ နှင်လိုက်လို့ရှိရင် ခွေးချေးနဲ့ တူတဲ့ ရန်သူ မျိုးငါးပါး မလာပါဘူးနော်၊ ဒါဖြင့် ခင်ဗျားတို့ကပ်ကျော်တဲ့ တရား ပောနေတော့ ဒါဟာ ကပ်ဆွဲတရားကို နှင်ကြစို့၊ ဒီ ရန်သူမျိုးငါးပါး မကြောက်ပါနဲ့၊ ကပ်ဆွဲတရားကြောက်ရမှာပါ နော်။ ကပ်ဆွဲတရားကြောက်၊ ကပ်ကိုမကြောက်နဲ့၊ ဒါဖြင့် ဒီ ကပ်ဆွဲ တရားနှစ်ခုဟာ မသူတော်တရား၊ အမြင်မှား၊ မသူတော်

တရားရယ်၊ အမြင်မှားရယ်၊ မသူတော်တရားက ဒုစရိုက်ဆယ်ပါး၊ အမြင်မှားက မိစ္ဆာဒိဋ္ဌိ၊ ဒီနှစ်ခုကြောက်ပါ။

အဲဒီတော့ သူဝမ်းထဲသူ ၊ သူ့ဟာဒယဝတ္ထုပေါ်မှာ ရောက်ရောက်နေတယ်၊ ဟာဒယဝတ္ထုပေါ် ရောက်ရောက်နေတော့ သူနေတဲ့နေရာမှာ သူ့နှင်နိုင်တဲ့တရား သွင်းရလိမ့်မယ်၊ သူနေတဲ့နေရာမှာ သူ့နှင်နိုင်တဲ့တရား သွင်းရလိမ့်မယ်၊ မဖြစ်ရင်သူက မထွက်ဘူး။

တစ်ယောက်ထွက်ရင် သူလိုလူပဲ ပြန်ဝင်တယ်၊ သူလိုလူပြန်ဝင်လာရင် သူ့အဖော်တွေက လာမှာပဲ၊ ဒါဖြင့် သူ့နှင်မှပေ့ါ။ ကိုင်း အဆွဲဓာတ် နှင်ကြပါစို့ ဆိုတော့။ သူသည် ဟာဒယဝတ္ထုပေါ်မှာနေတယ်၊ ဟောဒီ တရားနှစ်ခုစလုံး ဟာဒယဝတ္ထုပေါ်နေပါတယ်။ ဒါဖြင့် ကျုပ်တို့ ဝိပဿနာဉာဏ်ဇော အဲဒီပေါ်ရောက်အောင်လုပ်၊ ဝိပဿနာဉာဏ်ဇောရောက်အောင် လုပ်ရပါမယ်၊ အဲဒီရောက်လို့ရှိရင်တော့ သူတို့က မနေနိုင်ပြန်ဘူး၊ ဒါ ဖြင့် အဆွဲဓာတ်ပြုတ်သွားကတည်းက အလာဓာတ်က မလာပါဘူး၊ ဒါဖြင့် ခင်ဗျားတို့၏ ကိုးစားရာ အားထားရာ အစစ်တွေ့ပြီလား၊ ဝိပဿနာဉာဏ်ပဲ။

ကိုင်း ဒါဖြင့် ဝိပဿနာ၊ ဒါတွေ ဝိပဿနာဇော ခုနစ်ကြိမ်ပြန်လှည့်လိုက်တော့ ဝိပဿနာ တစ်ခါရှုလိုက်လို့ရှိရင် ခုနစ်ကြိမ်ဖြစ်တော့ ကိုယ့်စိတ်ကလေးတွေ ကိုယ်ရှုပြီးနေကြတော့။ ဒကာ ဒကာမတွေ ကိုယ့်သန္တာန်၊ ထွက်သက် ဝင်သက်စိတ်ကလေးရှုရှု၊ ဟုတ်ပလား၊ အင်း လောဘစိတ်ကလေးဝင်



ကြားဖြတ်ဝင်လာလည်း၊ သူ့ဖြစ်ပျက်ရှု အင်း စိတ်မချမ်းသာတာကလေး ဝင်လာပြန်တော့ သူ့ဖြစ်ပျက်ရှုမှာပါ။

အင်း သံသယကလေးရှိလာရင် ဖြစ်ပျက်ရှုရပါမယ်၊ ပြန့်လွင့်လာရင်ကော ဖြစ်ပျက်ရှုရပါမယ်၊ အိပ်ချင်လာရင်ကော ဖြစ်ပျက်ရှုရပါမယ်၊ အိပ်ချင်တဲ့စိတ်ကလေး ဖြစ်ပျက်ရှုပေး ၊ အဲဒီကဲ့သို့ ဖြစ်ပျက်ချည်း ရှုပစ်လိုက်တဲ့အခါကျလို့ရှိရင်ဖြင့် ဖြစ်ပျက်ရှုတာသည် မဂ်ပဲ၊ မဂ်ဆိုရင် ပထမဇောက စ - ပေါ်တယ်။

ထမဇောက စ - ပေါ်တော့ ဟာဒယဝတ္ထုပေါ်မှာ သွားပေါ်တယ်၊ ခုနင်တုန်းက မသူတော်တရား နှစ်ခုကလည်း ဟာဒယဝတ္ထုပေါ်မှာ နေတာပဲ၊ ဒီကနေပြီး ဆရာဘုန်းကြီးပေးတဲ့နည်းအတိုင်း ကိုယ့်စိတ်ကိုယ် ရှုနေလိုက်ပြီဆိုမှဖြင့် သူတော်တရားရောက်လာတယ်။

သူတော်တရားနှင့် သမ္မာဒိဋ္ဌိ ရောက်လာတယ်၊ သူတော်တရားဆိုတာ သူတော်ကောင်းလုပ်တဲ့တရား၊ ဝိပဿနာရှုဆိုတာ သူတော်ကောင်းလုပ်တဲ့တရား၊ ဒီအထဲမှာ သမ္မာဒိဋ္ဌိမပါဘူးလား။ သူတော်တရားနှင့် သမ္မာဒိဋ္ဌိ ပါနေတဲ့အတွက် မသူတော် တရားနှင့်မိစ္ဆာဒိဋ္ဌိတရားက ပြေးတယ်၊ သူတော်တရားနှင့် သမ္မာဒိဋ္ဌိဆိုတာ ပထမဇောပါပဲ၊ အဲဒါ မှန်မှန်ကန်ကန်သာဖြစ်ပျက်ကလေး တွေ့တိုင်း တွေ့တိုင်း ရှုရှုနေကြမယ်ဆို၊ သူတော်တရားနှင့် သမ္မာဒိဋ္ဌိလာတယ်၊ သူတော်တရားနှင့် သမ္မာဒိဋ္ဌိလာရင် မသူတော်တရားနှင့်မိစ္ဆာဒိဋ္ဌိ ပြေးပါတယ်။

ဒါဖြင့်ပရိတ်ရွတ်လို့ပြေးတာလား၊ ရှုတဲ့ဉာဏ်လေးရောက်လာ

လို့ ပြောတာလား၊ ရှတဲ့ဥက်လေး ရောက်လာလို့ ပြောတာပါ။ အဲဒါကြောင့် ဟိုဟာက ဝစီကံ၊ ဒါက မနောကံ၊ ဝစီကံနဲ့ လာတာ ဝစီကံနဲ့ဖြေရင် ရတယ်၊ သူက နဂိုက ဝမ်းထဲ မနောကံနဲ့ နေတဲ့ မသူတော်တရား၊ မိစ္ဆာဒိဋ္ဌိ၊ အဲဒါ မနောကံလာလို့ မနောကံ နဲ့ပယ်ထုတ်တယ်၊ ဒါကြပ်ကြပ်မှတ်ပါ။

အရင် ဟိုပရိတ်ရွတ်တာက ဝစီကံကိုဗျာ၊ ဝစီကံနဲ့လာ တာဖြင့် ဟိုက ဝစီကံလာလို့ ဝစီကံနဲ့ထုတ်ရရင် တော်ပါရဲ့၊ အခု မသူတော်တရားနဲ့မိစ္ဆာဒိဋ္ဌိက မနောကံပါပဲ၊ ဟုတ်ပြီလား၊ မိစ္ဆာဗျာပါဒ မိစ္ဆာဒိဋ္ဌိက မနောကံကိုး၊ အဘိဇ္ဈာဗျာပါဒတွေ ကလည်း မသူတော်တရား၊ မိစ္ဆာဒိဋ္ဌိကလည်း မနောကံ မသူတော်တရားဘဲ။

ဒါဖြင့် မနောကံကို မနောကံနဲ့ နှင်ရမယ်၊ ခင်ဗျားတို့ ဖြစ်နေတာက ဝစီကံကို ခင်ဗျားတို့က မနောကံနဲ့ နှင်လို့လည်း မရဘူး၊ ခင်ဗျားတို့ နှင်နေတာက ညကျပရိတ်ရွတ်၊ ဟောတုပစ္စယော၊ အာရမ္မဏပစ္စယောနဲ့ ဟာ ပရိတ်ကြီးရွတ်လို့ ရွတ်၊ ဝစီကံတွေနဲ့ လုပ်နေတယ်။ မနောကံက ဝမ်းထဲမှာ ပြေး ကိုမပြေးဘူး၊ မနောကံ ဘာနဲ့ နှင်ရမယ်၊ မနောကံနဲ့ နှင်ရပါ မယ်၊ လွဲနေလို့ ဒီအဖြေကို တာရှည်ဆွဲပြောပေးနေတာ၊ ခင်ဗျားတို့ နေ့တိုင်း နေ့တိုင်း ရွတ်နေ တဲ့ဥစ္စာက တစ်ခါတည်း ရာဇဂေါဝါ၊ ဓာရဂေါဝါ ဥုံတွေများ ခံလို့ပေါ့ဗျာ၊ ဘုရား တောင် ဖျက်သေးတာပဲ။

ဟင် ဥုံပါတယ်ဆိုတော့ ဘုရားဖျက်တာ အဲဒီကဲ့သို့



ဝစီကံတွေ ရွတ်ပြီးတော့ အန္တရာယ်တွေ ကင်းလိမ့်မယ်၊ ဘေး အတန်တန် ရန်အထပ်ထပ်မှ ကင်းရပါလို၏လို့ ဆိုပြားသော် လည်း မနောကံက မပြေးဘူး။

အဘိဇ္ဈာဗျာပါဒ မိစ္ဆာဒိဋ္ဌိ မနောကံက ပြေးရဲ့လား၊ မပြေး တော့ မနောကံနဲ့ရှု၊ မပြေးရင် သံလိုက်ဆွဲလိမ့်ဦးမယ်သူ၊ မပြေးရင် သံလိုက်ပါ၊ သံလိုက်ဆိုရင် ခုနင်က ရန်သူမျိုးငါးပါး ဆွဲမယ်။ ဒါဖြင့် ဘယ်လိုလုပ်မှ သင့်မယ်ဆိုတာကော ဒီနေ့ တရားပေါ်ပြီလား၊ နဂိုက ကိန်းနေတာက မနောကံ၊ အခု နှင်ရ မှာလည်း မနောကံပါ။ ကိုင်း ဒါဖြင့် ဝိပဿနာဆိုတာ ပါးစပ်က ရွတ်ရတာလား၊ စိတ်ထဲက ကြည့်ရှုရတာလား၊ မနောထဲက ကြည့်ရှုရတာလား၊ မနောထဲက ကြည့်ရှုရတာပါလို့မှတ်ပါ။

ဒါဖြင့် မနောကံနဲ့နှင် ယောင်ရမ်းပြီး တော်အောင်။ မြောက်အော် အော်နေလို့မဖြစ်ဘူး၊ အတော်ဆိုးနေလို့ ပြော နေပါတယ်၊ ဒကာ ဒကာမတွေ အရေးကြီးလို့ရှိရင် ဣတိပိ သော ရွတ်လိုရွတ်၊ ဟောတုပစ္စယော ရွတ်လိုရွတ်၊ ဝမ်းထဲမှာ ဒီကံတွေရှိရက်ပဲ။ ဝိပဿနာ အလုပ်လုပ်ပြီး နေပါ၊ နိစ္စဓာ သမာပတ်ဝင်စားနေတဲ့ ပုဂ္ဂိုလ်တွေဟာ မီးရှို့လို့မလောင်ဘူး၊ အဲဒီတော့ ဘေးကနေ ဝိုင်းပြီး မီးရှို့တာတောင် သူ့မနောကံ အကုသိုလ် အခံမရှိလို့ အလျှင်းမလာနိုင်ဘူး၊ မနောကံ၊ မကောင်းတဲ့ မနောကံကို မနောကံချင်း ဖယ်ရှားထုတ်ရမယ်၊ ထုတ်တတ်ပြီလား။

ဒါဖြင့် ဝိပဿနာရှုတာသည် မနောကံပါ၊ ဒါဖြင့် မနောကံ

ဖြစ်လို့ရှိရင် ခုနင်က ခေါ်တတ်တဲ့မနောကံသုံးလိုက် မနောကံတွေ ရှိပဲ့မလား၊ သူလည်း ဟဒယဝတ္ထုပေါ် ပေါ်တာကိုး၊ အင်း အခုရှုတဲ့ မနောကံကတော့ ဟဒယဝတ္ထုပေါ် ပေါ်ပါတယ်၊ ဒါဖြင့် ပြေးရောပေ့ါဗျာ။

အင်း ဒါဖြင့် အခေါ်ခါတတ်ပြေးပေ့ါဗျာ၊ အလာခါတတ်တွေ လာပါဦးမလား၊ အင်း အန္တရာယ်ကင်းလို့ ဘေးရှင်းလိမ့်မယ်ဆိုတာ သေချာတယ်။ ဒါဖြင့် ဝိပဿနာအလုပ်ဟာ ပါးစပ်နဲ့လုပ်လို့မရဘူး၊ ကိုယ်နဲ့ရှုလို့မရဘူး၊ ဉာဏ်နဲ့ဆိုတဲ့ မနောကံနဲ့ရှုမှရမယ်၊ တစ်ခြားသောနည်းနဲ့ ရှုလို့မရပဲ့မလား၊ ဒါ့ကြောင့် မနောကံချင်း နှင်ရပါမယ်။

မနောကံ မနောကံချင်း နှင်လိုက်လို့ရှိရင်ဖြင့် အခေါ်ခါတတ်ဖြစ်တဲ့ မနောကံတွေက ပြေးပါတယ်၊ ပြေးတဲ့အတွက် အလာခါတတ်ဖြစ်တဲ့ ကပ်တွေ မရောက်နိုင်ပါဘူး၊ ဒါဖြင့် အန္တရာယ်ကင်း ဘေးရှင်းဆိုတာသည် ဒါအသေအချာဆုံးပဲ။ ဒါဖြင့် ကျုပ်တို့ ဝိပဿနာလုပ်နေဖို့ သင့်ပါတယ်၊ ဝိပဿနာလုပ်တော့ ဝမ်းထဲ မနောကံဖြစ်ပါတယ်၊ ဒါဖြင့် အကုသိုလ်မနောကံတွေကပြေးတော့၊ ကုသိုလ်မနောကံတွေက ရောက်ပါတယ်၊ အင်း ဝမ်းထဲရောက်လာသော ကြောင့် အကုသိုလ်တွေ အကုန်မရှိတော့ဘူး။

သံလိုက်တွေ ထုတ်ပစ်တယ်၊ ပယောဂတွေ ဝမ်းထဲရှိသေးလား၊ ပယောဂမှ မရှိဘဲနဲ့ ဟုတ်လား၊ စုန်းတို့ သရဲတို့ သဘက်တို့က လာပူးချင်လို့မရပါဘူး၊ မနောကံပယောဂမရှိလို့ပဲ။



ဒါဖြင့် ဒကာ ဒကာမတို့ ဝိပဿနာလုပ်နေရပါမယ်ဆိုတာ စွဲစွဲမြဲမြဲမှတ်ပါ၊ အဲ ဝိပဿနာမနောကံနဲ့ နေပါ၊ ဘာမှ ကြောက်လန့်ပြီး မနေနဲ့၊ ဒါပဲ အားကိုးရမှာပဲ။ အဲ တိုင်းရေးပြည်ရေးက ဘာတွေရှုပ်နေနေ ဒီမနောကံသာကောင်းဖို့လိုတယ်၊ ဒါဖြင့် ဘယ်စိတ်ပေါ်ပေါ်ဖြစ်ပျက်ရှုရပါမယ်၊ ဘယ်စိတ်ပေါ်ပေါ်ဖြစ်ပျက်ရှုတော့ မနောကံနဲ့ ရှုပါတယ်။ အဲ ဖြစ်ပျက်က မမှာရုံ၊ မနောကံက မနောဒွါရ၊ မမှာရုံကို မနောဒွါရနဲ့ ရှုတာ၊ မမှာရုံကို မနောဒွါရနဲ့ ရှုတာပါပဲလို့မှတ်ပါ၊ ကောင်းပြီ ဒါဖြင့် ဒီလိုမဂ်ဇောဟာ ခုနစ်ကြိမ်စောပါတယ်၊ ပထမဇောက ခုနစ်ရက်၊ ခုနစ်လ၊ ခုနစ်နှစ်အတွင်းမှာအကျိုး ပေးမယ်။

အခုအချိန်မှစ၍ (ခုနစ်)ရက်၊ (ခုနစ်)လ၊(ခုနစ်)နှစ်ဆိုတော့ ကျုပ်တို့ အခါကာလ မဆိုင်းပါဘူး၊ ဒါဖြင့် အကာလိ[illegible]ကာ၊ အခါမလင့် အကျိုးပေးတယ်၊ ဒါဖြင့် ဒီဟာပဲ လုပ်နေဖို့ အရေးဟာ နိဗ္ဗာန်လည်း ရောက်တယ်၊ ကပ်လည်း ကျော်တယ်၊ ဒီဟာထက်ကောင်း ဘယ်ရှာတွေ့မလဲ ယောဂီတို့။